Kaytumadi Development Public Co., Ltd. မှ စက်မှုဥယျာဉ် ဖော်ထုတ်ခြင်းနှင့်ငှားရမ်းခြင်း လုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၅-၁ -၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | **(က) ကာကွယ်ရေးဝန်ကြီးဌာန** | ၁၇-၂-၂၀၁၆ | ၂၂-၃-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၁၅-၂-၂၀၁၆ | ၇-၃-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၁၄-၃-၂၀၁၆ | |
| | (ဃ) ဆောက်လုပ်ရေး ဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၂၅-၂-၂၀၁၆ | |
| | (င) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန | ၁၇-၂-၂၀၁၆ | ၂၅-၂-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၅/၂၀၁၆) သို့ တင်ပြခြင်း | ၁-၂-၂၀၁၆ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၅/၂၀၁၆)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၉-၂-၂၀၁၆ | ၂၆-၂-၂၀၁၆ | |
| ၅ | ပတ်ဝန်းကျင် သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၉-၃-၂၀၁၆ | ၁၄-၃-၂၀၁၆ | |
| ၆ | စက်မှု၏ သဘောထားမှတ်ချက် နှင့် အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြခြင်း | ၈-၃-၂၀၁၆ | ၁၆-၃-၂၀၁၆ | |
| ၇ | ဆောက်လုပ်ရေး၏ သဘောထားမှတ်ချက် နှင့် အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြခြင်း | ၁၉-၃-၂၀၁၆ | ၂၂-၃-၂၀၁၆ | |
| ၈ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | | ၂၄-၃-၂၀၁၆ | |
| ၉ | **စုစုပေါင်းကြာမြင့်ရက်** | **( ၈၀) ရက်** | | |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ကာကွယ်ရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

စာအမှတ်၊ ၁၁/ ၁၉၀(အုပ်ချုပ်ရေး)/ကကန

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ၂၂ ရက်

သို့

၁ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက - ၄ / မ - ၁၅၂၆ / ၂၀၁၆ (၂၃၅)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက - ၄ / မ - ၁၅၂၇/ ၂၀၁၆ (၂၄၇)

Kaytumadi Development Public Co.,Ltd.မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု(အုပ်စုအမှတ်-၂)၊ ကွင်းအမှတ် ၅၉၉/ဂ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းဘဲစာကွင်း၊ ၆၁၀ - ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆-ကံဧရိယာကွင်းရှိ မြေဧရိယာ (၂၃၅.၅၄) ဧကတွင် လည်းကောင်း၊ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ ပဲချက်ကုန်းကျေးရွာအုပ်စု အမှတ်( ၆ )၊ ကွင်းအမှတ် - ၅၈၁ ၊ တောင်ကြီးတက်ကွင်းရှိ မြေဧရိယာ (၁၃၁၁)ဧကတွင် လည်းကောင်း စက်မှုဥယျာဉ်စီမံကိန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ရည်ညွှန်းပါစာများဖြင့် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( ဗိုလ်မှူးချုပ် စန်းဝင်း၊ အမြဲတမ်းအတွင်းဝန် )

**မိတ္တူကို**

စစ်ထောက်ချုပ်ရုံး

ရုံးလက်ခံ/မျှောစာ

KAYTUMADI DEVELOPMENT PUBLIC COMPANY LIMITED

**5th Floor, Saya San Plaza, Corner of New University Avenue & Saya San Road,**
**Bahan Township, Yangon, Republic of the Union of Myanmar.**
**Tel: +95(0)9-863 5910**
**E-mail: kma.bde.5@gmail.com**

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ KTD/MIC/006

ရက်စွဲ၊ ၂၀၁၆ခုနှစ် မတ်လ ၁၄ ရက်

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ပါမည်ဟု ဝန်ခံချက်တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၁.၃.၂၀၁၆) ရက်စွဲပါ စာအမှတ် ရက-၄/ မ-၁၅၂၇/ ၂၀၁၆(၃၈၃)

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Kaytumadi Development Public Co., Ltd မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု (အုပ်စုအမှတ်-၂)၊ ကွင်းအမှတ်-၅၉၉/ဂ၊ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဖမ်းဘဲစာကွင်း၊ ၆၀၀-ခ ကျောက်ပုလ္လားအရှေ့ကွင်း၊ ၅၈၆-ကံယောကွင်းရှိ မြေဧရိယာ ၂၃၅.၅၄ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်များအပေါ် အောက်ပါအတိုင်း ရှင်းလင်းတင်ပြအပ်ပါသည်။

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုလုပ်ဆောင်သွားပါမည်။

အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ ပူးပေါင်းဆောင်ရွက်မှု ( Corporate Social Responsibility – CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားပါမည်။

(ခ) အဆိုပြုစီမံကိန်းလုပ်ငန်းကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ကို Green Myanmar Environmental Services Co.,Ltd နှင့် ပူးပေါင်းဆောင်ရွက်လျက်ရှိပါသည်။

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရန် နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအစဉ် နှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) ကိုလည်း ရေးဆွဲတင်ပြထားပြီး ဖြစ်ပါသည်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ခင်လှလှ)

ဥက္ကဋ္ဌ




# Green Myanmar

## Environmental Services Co., Ltd

No.115, Kanaung Min Thar Gyi Road Industrial Zone (1), Hlaing Thar Yar Industrial City,
Yangon, Myanmar
Tel: 01-685572, 01-685571, 09-5081451, 09-5122448 E-mail: gmescompany@gmail.com




စာအမှတ် - 070A/KDP - GMES/EIA/EMP/2016
ရက်စွဲ ။ ။ ၂၀၁၆ခုနှစ်၊ မတ်လ ( ၁၈ ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **။ Kaytumadi Development Public Co., Ltd ၏ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) ဆောင်ရွက်နေမှုအခြေအနေတင်ပြခြင်း။**

Kaytumadi Development Public Co., Ltd. ၏ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု (အုပ်စုအမှတ်-၂)၊ ကွင်းအမှတ် ၅၉၉/ဂ၊ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းဘဲစာကွင်း၊ ၆၀၀-ခ ကျောက်ပုဏ္ဏား အရှေ့ကွင်း၊ ၅၈၆-ကံယောကွင်းတွင် ဆောင်ရွက်မည့် ကေတုမတီ စက်မှုဥယျာဉ်မြို့တော် စီမံကိန်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan – EMP) ကို အတည်ပြုပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် ဥပဒေများပါ အချက်အလက်များအရလည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စည်းမျဉ်းများ (၂၀၁၃) အရ လည်းကောင်း၊ နိုင်ငံတကာစံချိန်စံနှုန်းများနှင့်အညီ Green Myanmar Environmental Services Co., Ltd. မှ တာဝန်ယူလေ့လာသုံးသပ်ပေးလျက်ရှိပါသည်။

စီမံကိန်းနှင့်ပတ်သက်သည့် လိုအပ်သောအချက်အလက်များ ပြည့်စုံစွာစုဆောင်းရရှိပြီးပါက အစီရင်ခံစာအပြည့်အစုံကို ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ဒုတိယပတ်တွင် ပေးပို့တင်ပြသွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

18/3/2016

Kyaw Soe Win
Managing Director
Green Myanmar
Environmental Services Co., Ltd.

မိတ္တူကို

- ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
  ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
- Kaytumadi Development Public Co., Ltd.
- ရုံးလက်ခံ

KAYTUMADI DEVELOPMENT PUBLIC COMPANY LIMITED

5th Floor, Saya San Plaza, Corner of New University Avenue & Saya San Road,
Bahan Township, Yangon, Republic of the Union of Myanmar.
Tel: +95(0)9-863 5910
E-mail: kma.bde.5@gmail.com

---

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်

နေ့စွဲ။ ။ ၂၀၁၆ခုနှစ် ၊ မတ်လ ၊ (၁၀)ရက် ။
စာအမှတ်။ ။ KTD / MIC / 003

အကြောင်းအရာ။ ။ Kaytumadi Development Public Co., Ltd မှ စက်မှုဥယျာဉ်စီမံကိန်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းနှင့် စပ်လျဉ်း၍ လိုအပ်ချက်များ အပေါ် ရှင်းလင်းတင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် ပတ်သတ်၍ Kaytumadi Development Public Co., Ltd မှ ပဲခူးတိုင်းဒေသကြီး ၊ တောင်ငူမြို့နယ် ၊ နေပူကုန်းကျေးရွာ (အုပ်စုအမှတ်-၂) ၊ ကွင်းအမှတ် - ၅၉၈/၀ ၊ နေပူကုန်းတောအရှေ့ကွင်း ၊ ၅၉၂/က ဝမ်းစာဘဲကွင်း ၊ ၆၀၀-ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း ၊ ၅၈၆-ကံယောကွင်းရှိ မြေ ၂၃၅. ၅၄ဧက အကျယ်အဝန်းတွင် စက်မှုဥယျာဉ်စီမံကိန်းဆောင်ရွက်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်သွင်းခဲ့ခြင်းအပေါ် ၁. ၂. ၂၀၁၆ နေ့တွင် ကျင်းပခဲ့သော အဆိုပြုလွှာ အကဲဖြတ်ရေးအဖွဲ့ (PAT) ၏ ဆွေးနွေးမေးမြန်းချက်များအပေါ် အောက်ပါ အတိုင်း ရှင်းလင်းတင်ပြအပ်ပါသည်။

<u>ကော်မရှင်အဖွဲ့ဝင်များ၏မှတ်ချက်အပေါ်ရှင်းလင်းတင်ပြချက်များ</u>

၁။ ပဏာမဖြစ်တန်စွမ်း လေ့လာမှုအစီရင်ခံစာ
၂။ ရင်းနှီးမြှုပ်နှံမှု တည်နေရာ၊ နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်ပမာဏ ၊ နှစ်စဉ်ရေလိုအပ်ချက် ပမာဏကို ပြည့်စုံစွာ ဖြည့်စွက်ထားသော Form (1)
၃။ အဆိုပြုဆောင်ရွက်မည့် မြေ (၂၃၅. ၅၄)ဧက ၏ စက်မှုဇုန်ရန်
၄။ စီမံကိန်းတည်ဆောက်မည့် စက်မှုလုပ်ငန်းများ၏ လုပ်ငန်းအမျိုးအစားများ ဖော်ပြထားသော Detail Planning Program

၅။ စက်မှုဥယျာဉ်မြို့တော် ထူထောင်ရာတွင် လိုအပ်သော လမ်း + Open Space ၊ ဆေးရုံ ၊ အုပ်ချုပ်ရေးရုံး ၊ မီးသတ်ဌာန ၊ သစ်ပင်ပန်းခြံဧရိယာ ၊ စက်မှုလုပ်ငန်းသုံးအဆိပ်အတောက်ပစ္စည်းများ စနစ်တကျစွန့်ပစ်ရေး နှင့် စက်ရုံဧရိယာများ စသည့် အချိုးအစားမျှတစွာ ပြင်ဆင်ရေးဆွဲထားသော Detail Planning Program

၆။ စက်မှုဥယျာဉ်တည်ထောင်ပြီးပါက တည်ဆဲဥပဒေများနှင့်အညီ ကြီးကြပ်ကွပ်ကဲနိုင်ရန်အတွက် Developer နှင့် ဒေသဆိုင်ရာအာဏာပိုင်များ ပါဝင်သောစီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်နိုင်ရန်အတွက် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ တင်ပြထားသောစာ

၇။ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ကို ဆောင်ရွက်နိုင်ရန် Green Myanmar Environmental Services Co.,Ltd နှင့် ပူးပေါင်းဆောင်ရွက်လျက်ရှိကြောင်း တင်ပြအပ်ပါသည်။

သို့ဖြစ်ပါ၍ PAT ၏လမ်းညွှန်ချက်နှင့်အညီ ပြန်လည်ပြင်ဆင်တင်ပြထားသော အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှပ်နှံမှုကော်မရှင်သို့တင်ပြပြီး ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် စီစဉ်ဆောင်ရွက်ပေးပါရန် လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်ခင်လှလှ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

ပဲခူးမြို့

စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ (၀၄၆)

ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၂၆ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်ရှိ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ လိုအပ်ချက်များတင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉.၂.၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက-၄/ မ-၁၅၂၇/ ၂၀၁၆ (၁၈၈)

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု၊ အုပ်စုအမှတ်(၂)၊ ကွင်းအမှတ်(၅၉၉/ဂ)၊ နေပူကုန်းတောအရှေ့ကွင်း၊ (၅၉၂/က)ဝမ်းဘဲစာကွင်း၊ (၆၀၀-ခ) ကျောက်ပုဏ္ဏား အရှေ့ကွင်း၊၅၈၆-ကံယောကွင်းရှိ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အဆိုပြုချက်တင်ပြမှုနှင့်ပတ်သက်၍ လိုအပ်ချက်များအား ပြန်လည်တင်ပြရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်ရှိ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းဆောင်ရွက်ခွင့်ပြုပါရန် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အဆိုပြုချက်တင်ပြမှုနှင့်ပတ်သက်၍ လိုအပ်ချက်များအား အောက်ပါအတိုင်း ပြန်လည်တင်ပြအပ်ပါသည်-

(က) ပဏာမဖြစ်တန်စွမ်းလေ့လာမှုအစီရင်ခံစာအား ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ( ၂၄.၂.၂၀၁၆)ရက်စွဲပါစာအမှတ်၊၈/၁-၂/ဦး၈(၀၄၂)ဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာနနှင့်စက်မှုလုပ်ငန်းများဖွံ့ဖြိုးတိုးတက်ရေးကော်မတီသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။ **(တင်ပြစာမိတ္တူအားပူးတွဲတင်ပြအပ်ပါသည်)**

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာအား ပြည်ထဲရေးဝန်ကြီးဌာနမှ နှစ်(၃၀) စက်မှုမြေငှားဂရန်အား ခွင့်ပြုထားပြီးဖြစ်ပါသည်။

TZNL(Head Office)-13

(ဂ) စက်မှုဇုန်အင်္ဂါရပ်နှင့်အညီ ဌာနဆိုင်ရာများနှင့် ညှိနှိုင်းပေါင်းစပ်၍ Plan ရေးဆွဲဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ဉာဏ်ဝင်း
ဝန်ကြီးချုပ်

မိတ္တူကို
လက်ခံစာတွဲ
မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့

စာအမှတ်၊ ၈ / ၁ -၂ / ဦး ၈ (၀၄၂)
ရက် စွဲ ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၂၄ ရက်

သို့

ပြည်ထောင်စုဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်ရှိ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉.၂.၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၂၇/၂၀၁၆(၁၈၈)

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု၊ အုပ်စုအမှတ်(၂)၊ ကွင်းအမှတ်(၅၉၉/ဂ)၊ နေပူကုန်းတောအရှေ့ကွင်း၊ (၅၉၂/က)ဝမ်းဘဲစာကွင်း၊ (၆၀၀-ခ) ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ (၅၈၆)ကံယောကွင်းရှိမြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အဆိုပြုချက်တင်ပြလာမှုနှင့်ပတ်သက်၍ ပဏာမဖြစ်တန်စွမ်း လေ့လာမှုအစီရင်ခံစာကို ဆောက်လုပ်ရေးဝန်ကြီးဌာနသို့တင်ပြရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်၏ တောင်ငူမြို့နယ်ရှိ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းဆောင်ရွက်မည့် ပဏာမဖြစ်တန်စွမ်း လေ့လာမှုအစီရင်ခံစာအား သဘောထားပြန်ကြားပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲပါ** - ပဏာမဖြစ်တန်စွမ်းလေ့လာမှုအစီရင်ခံစာ

(ဉာဏ်ဝင်း)
ဝန်ကြီးချုပ်

မိတ္တူ။

- ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး
- လက်ခံစာတွဲ/မျှောစာတွဲ

TZNL(Head Office)-3

# ကေတုမတီစက်မှုဥယျာဉ်မြို့တော်စီမံကိန်း (၂၃၅.၅၄)ဧက

# ပဏာမဖြစ်တန်စွမ်း လေ့လာမှုအစီရင်ခံစာ

၁။ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်သည် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်တွင် စက်မှုလုပ်ငန်းများ တိုးတက်ဖြစ်ပေါ်လာရေး၊ အလုပ်အကိုင်အခွင့်အလမ်းများ ဖန်တီးပေးနိုင်ရေး၊ နည်းပညာဖွံ့ဖြိုးတိုးတက်မှုများရရှိစေရေးအတွက် စက်မှုဥယျာဉ်စီမံကိန်းကို စနစ်တကျအကောင်အထည်ဖော်နိုင်ရန် တင်ပြလာမှုအပေါ် ပဏာမဖြစ်တန်စွမ်း အစီရင်ခံစာ တင်ပြခြင်းဖြစ်ပါသည်။

၂။ အဆိုပြုစီမံကိန်းသည် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ ရန်ကုန်-မန္တလေး အမြန်လမ်း အနောက်ဖက်ခြမ်း မိုင်တိုင်(၁၅၂)ဝန်းကျင်၊ နေပူကုန်းကျေးရွာအုပ်စုအနီး ပတ်ဝန်းကျင်တွင် တည်ဆောက်မည်ဖြစ်ပါသည်။

၃။ ပဲခူးတိုင်းဒေသကြီးဖွံ့ဖြိုးတိုးတက်ရေးအတွက် တိုးတက်ပြောင်းလဲလာသောလူဦးရေနှင့်လိုက်လျောညီထွေရှိမည့် မိသားစုဝင်ငွေတိုးပွားစေရန်၊ အလုပ်အကိုင်အခွင့်အလမ်းသစ်များ (Job Apportunity)နှင့် ကျွမ်းကျင်မှုနည်းပညာသစ်များ (Skillful Technology)ရရှိစေရန်၊ နိုင်ငံတကာစီးပွားရေးဈေးကွက်မြှင့်တင်ရန်၊ ပြည်တွင်းပုဂ္ဂလိကလုပ်ငန်းရှင်များအား ရင်းနှီးမြှုပ်နှံရန်ဖိတ်ခေါ်၍ အကျိုးတူပူးပေါင်းဆောင်ရွက်မှုများပြုလုပ်ရန်၊ တောင်ငူမြို့၏ တိုးတက်ပြောင်းလဲလာသော လူဦးရေနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုများအရ လိုအပ်လာသော မြို့ပြအိမ်ရာ တည်ဆောက်ရေးလုပ်ငန်းများကို ပြဋ္ဌာန်းထားသော ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း စည်းမျဉ်းစည်းကမ်းများနှင့်အညီ အကောင်အထည်ဖော်ရန် ရည်ရွယ်ဆောင်ရွက်သည့် လုပ်ငန်း စီမံကိန်းဖြစ်ပါသည်။

၄။ စီမံကိန်းမြေဧရိယာသည် (၁၁.၂.၂၀၁၆)တွင် စက်မှုမြေငှားဂရန်ရရှိပြီးဖြစ်၍ အခြေခံအဆောက်အအုံလုပ်ငန်းများ (Infrastructure Works)အတွက် ရင်းနှီးမြှုပ်နှံမှုခန့်မှန်းခြေကျပ် (၂၂,၇၅၃)သန်း ရည်မှန်းထားပါသည်။ အဆိုပါရင်းနှီးမြှုပ်နှံမှု၏ (၅၀%)ကို CB Bank ချေးငွေဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး စီမံကိန်းအကောင်အထည်ဖော်မှုကာလကို (၃)နှစ်လျာထား၍ ကေတုမတီ

ဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းစီမံကိန်းဖြစ်ပါသည်။

၅။ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်အစီရင်ခံစာ (EIA Report)ကို Green Myanmar Environmental Servicesအဖွဲ့ဖြင့် ပြုစုလျက်ရှိပါသည်။ ဤစီမံကိန်းဆောင်ရွက်မည့်နေရာသည် သစ်တောမြေဧရိယာ၊ သဘာဝပေါက်ပင်များစိမ်းလန်းစွာ ပေါက်ရောက်သောဧရိယာမဟုတ်သည့် အပြင် အဆိုပြုလွှာတွင် Buffer Zone / Green Area ထားရှိခြင်း၊ Water Treatment Plan များပြည့်စုံစွာ ထည့်သွင်းထားရှိမည်ဖြစ်ခြင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုကို ဖြစ်ပေါ်စေသည့် လေထုညစ်ညမ်းမှု(Air Pollution)၊ စွန့်ပစ်ရေ (Waste Water)၊ စွန့်ပစ်အစိုင်အခဲ(Solid Waste)တို့အား ပတ်ဝန်းကျင်အရည်အသွေး စံချိန်စံညွှန်း (Environmental Quality Standard) နှင့်အညီ သတ်မှတ်ချက်များအတိုင်း သန့်စင်ခြင်း၊ ထုတ်လွှတ်ခြင်း၊ စွန့်ပစ်ခြင်းနှင့် စုပုံခြင်းများ ပြုလုပ်မည်ဖြစ်၍ ပတ်ဝန်းကျင်အား ညစ်ညမ်းမှုသိသိသာသာမဖြစ်နိုင်ပါ။ ထို့အပြင်မီးခိုးမထွက်သည့် စက်ရုံများကို ရွေးချယ်တည်ဆောက်မည်ဖြစ်ခြင်းတို့ကြောင့် ပတ်ဝန်းကျင်ဂေဟစနစ်ကို ပျက်စီး ထိခိုက်မှုမပေါ်ပေါက်နိုင်ကြောင်း သုံးသပ်ရပါသည်။

၆။ စီမံကိန်းပါလုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနက (၂၀၁၂)ခုနှစ်၊ မတ်လတွင် ပြဋ္ဌာန်းခဲ့သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ (Environmental Conservation Law)ပါ ပြဋ္ဌာန်းချက်များ၊ (၂၀၁၄)ခုနှစ်၊ ဇွန်လတွင်အတည်ပြုထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နည်းဥပဒေ (Environmental Conservation Rules)နှင့် (၂၀၁၅)ခုနှစ်၊ ဒီဇင်ဘာလတွင် ထုတ်ပြန်သည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်း (Environmental Impact Assessment Procedure)များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း သိရှိရပါသည်။

၇။ မြေအသုံးချမှုပုံစံတွင် လူနေအိမ်ရာ (၅%)၊ ထောက်ပို့ဇုန်(၄.၆၆%)၊ စီးပွားရေးဇုန် (၆%)၊ စက်မှုဇုန် (၄၂.၃၄%)၊ လမ်းဧရိယာ(၂၅%)၊ စီမံခန့်ခွဲရေးဇုန် (၅%)၊ စိမ်းလန်းဇုန် (၇%)၊ စည်ပင်သာယာရေးဇုန်(၅%) အသုံးပြုရန် စီမံထားသည်ကို တွေ့ရှိရပါသည်။ စက်မှုဇုန်တွင်

လျှပ်စစ်မီး၊ ရေရရှိရေး၊ ရေဆိုးသန့်စင်စနစ်များ ဆောင်ရွက်ရေးစသော အခြေခံ အဆောက်အအုံ လိုအပ်ချက်များပြည့်စုံစေရန် ဦးစွာဖြည့်ဆည်းဆောင်ရွက်မည်ဖြစ်ကြောင်း သိရှိရပါသည်။

၈။ စီမံကိန်းနယ်မြေအတွက် လျှပ်စစ်ဓာတ်အားလိုအပ်ချက် (၁၆)မဂ္ဂါဝပ်ဖြစ်ပြီး မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း၊ အုတ်တွင်းမြို့နယ်၊ ဟင်းငုတ်ပင်ဓာတ်အားခွဲရုံမှတစ်ဆင့် ဓာတ်အားပို့လွှတ်ရေးလိုင်းများ၊ ဖြန့်ဖြူးရေးလိုင်းများဖြင့် သွယ်တန်းရယူမည်ဖြစ်ပါသည်။

၉။ စက်မှုဥယျာဉ်မြို့တော်အင်္ဂါရပ်နှင့်ညီညွတ်စေရေးအတွက် ဇုန်အတွင်းပေ(၈၀)လမ်းများအား Primary Roadများအဖြစ်ထားရှိပြီး ပေ(၆၀)လမ်းများအား Secondary Roadများအဖြစ် ထားရှိပါသည်။ လမ်းပန်းဆက်သွယ်ရေးနှင့် အခြေခံအဆောက်အအုံများတိုးတက်ရေးအစီအစဉ်များ၊ လူနေဧရိယာနှင့် စက်မှုဇုန်ကြား၊ ကုန်လှောင်ဇုန်ဧရိယာများနှင့် စက်မှုဇုန်ကြားတို့တွင်ထားရှိရမည့်စိမ်းလန်းဇုန်(Buffer Area)၊ လျှပ်စစ်နှင့်စွမ်းအင်ဖူလုံစေရေးအတွက် စီမံဆောင်ရွက်မှုများ၊ ဆက်သွယ်ရေးနှင့် အင်တာနက်လိုင်းများ တပ်ဆင်ရေးဆောင်ရွက်မှုများ၊ သောက်သုံးရေဖူလုံစေရေးအတွက် အစီအစဉ်များ၊ ရေဆိုးနှင့်စွန့်ပစ်ရေထုတ်လွှတ်မှုအတွက်စီမံမှုများ၊ ဘေးအန္တရာယ်ကင်းရှင်းရေး လုံခြုံမှုရှိစေရေးစသည့် အစီအစဉ်များကို အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ပြီး၊ ထိုသို့ဆောင်ရွက်ရာတွင် တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း သိရှိရပါသည်။

၁၀။ ပဲခူးတိုင်းဒေသကြီး၏စီးပွားရေးပုံသဏ္ဍာန် (Economic Structure)သည် လယ်ယာကဏ္ဍကြီးတွင် (၃၄.၅%)၊ စက်မှုကဏ္ဍကြီးတွင် (၂၆.၁%)၊ ဝန်ဆောင်မှုကဏ္ဍကြီးတွင် (၃၉.၄%) ဖော်ဆောင်လျက်ရှိပါသည်။ တင်ပြလာသောစီမံကိန်း ဆောင်ရွက်ခြင်းဖြင့် တိုးတက်ပေါ်ပေါက်လာမည့် ရင်းနှီးမြှုပ်နှံမှုများ၊ စက်မှုကဏ္ဍထုတ်လုပ်မှုများ၊ ဝန်ဆောင်မှုကဏ္ဍမြင့်တက်မှုများသည် တိုင်းဒေသကြီး၏ စီးပွားရေးပုံသဏ္ဍာန် (Economic Structure)ကို မြင့်မားပြောင်းလဲစေသည့်အပြင် နိုင်ငံတော်၏စက်မှုနိုင်ငံအဖြစ်သို့ ဦးတည်ပြောင်းလဲရေးအတွက်ပါ အထောက်အကူပြုသောစီမံကိန်းလည်း ဖြစ်ပါသည်။

၁၁။ အလတ်စားစီးပွားရေးလုပ်ငန်းများဖြစ်သော ဒေသတွင်းစက်မှုကုန်ကြမ်းသယံဇာတ အရင်းအမြစ်များကိုအခြေခံ၍ စားသောက်ကုန်ဆိုင်ရာ စက်မှုလုပ်ငန်း၊ သစ်အခြေခံစက်မှု လုပ်ငန်း၊ လယ်ယာထွက်ကုန်အခြေခံစက်မှုလုပ်ငန်း၊ သစ်တောထွက်ကုန်အခြေခံစက်မှုလုပ်ငန်း၊ အထည်ချုပ်လုပ်ငန်း၊ သတင်းအချက်အလက်နှင့် နည်းပညာအခြေခံစက်မှုလုပ်ငန်း၊ စက်ကိရိယာနှင့် အပိုပစ္စည်းထုတ်လုပ်သည့်စက်မှုလုပ်ငန်းများ ဆောင်ရွက်ရန်လျာထားပြီး အဆိုပါစီမံကိန်းများ အောင်မြင်စွာ ဖြစ်ထွန်းပေါ်ပေါက်လာပါက လူမှုစီးပွားအခြေအနေအရ ရွှေ့ပြောင်းနေထိုင်မှု၊ ရွှေ့ပြောင်းလုပ်ကိုင်မှုများ ဖြစ်ပေါ်လာမည်ဖြစ်သည့်အတွက် အလုပ်အကိုင်အခွင့်အလမ်းများစွာ ဖော်ဆောင်နိုင်မည်ဖြစ်ပြီး မိသားစုဝင်ငွေတိုးတက်ခြင်း၊ ဆင်းရဲမှုလျော့ကျစေနိုင်ခြင်း၊ စက်မှု ကဏ္ဍဖွံ့ဖြိုးတိုးတက်ရာမှ ပြည်တွင်းပြည်ပ ကုန်သွယ်မှုများလည်းတိုးတက်ကာ ဒေသဖွံ့ဖြိုးမှုကို ရရှိစေနိုင်သော စီမံကိန်းတစ်ခုဖြစ်ပါသည်။

၁၂။ စီမံကိန်းအတွင်း မြေစည်ပင်လုပ်ငန်းများ စတင်ဆောင်ရွက်သည်မှစ၍ စီမံကိန်း အကောင်အထည်ဖော်ပြီးသည်အထိ လုပ်ငန်းအသီးသီးတွင်အသုံးပြုမည့် အလုပ်အကိုင်အခွင့် အလမ်းများ၊ မိသားစုဝင်ငွေတိုးတက်မှုများ၊ ပဲခူးတိုင်းဒေသကြီး၏ စက်မှုလက်မှုကဏ္ဍ၊ ဆောက်လုပ်မှုကဏ္ဍ၊ ဝန်ဆောင်မှုကဏ္ဍ တန်ဖိုးမြင့်တက်မှုများ (GDP)၊ လူတစ်ဦးကျဝင်ငွေ (Per Capital GDP) တိုးတက်မှုများ၊ မြို့ပြဖြစ်ထွန်းမှုမှတစ်ဆင့်ဖြစ်ပေါ်လာမည့် လူမှုစီးပွား ဘဝဖွံ့ဖြိုးတိုးတက်မှုများနှင့် ဒေသန္တရဖွံ့ဖြိုးတိုးတက်မှုကို ဖြစ်ပေါ်စေနိုင်သည့်အတွက် ခွင့်ပြုသင့်သော စီမံကိန်းတစ်ခုဖြစ်ပါကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

ဉာဏ်ဝင်း

ဝန်ကြီးချုပ်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ပဲခူးမြို့**

စာအမှတ်၊ ၈ / ၁ -၂ / ဦး ၈ (၀၄၂)
ရက် စွဲ ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ၂၄ ရက်

သို့

ဥက္ကဋ္ဌ
စက်မှုလုပ်ငန်းများဖွံ့ဖြိုးတိုးတက်ရေးကော်မတီ
နေပြည်တော်

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်ရှိ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉.၂.၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၂၇/၂၀၁၆(၁၈၈)

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု၊ အုပ်စုအမှတ်(၂)၊ ကွင်းအမှတ်(၅၉၉/ဂ)၊ နေပူကုန်းတောအရှေ့ကွင်း၊ (၅၉၂/က)ဝမ်းဘဲစာကွင်း၊ (၆၀၀-ခ) ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ (၅၈၆)ကံယောကွင်းရှိမြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အဆိုပြုချက်တင်ပြလာမှုနှင့်ပတ်သက်၍ ပဏာမဖြစ်တန်စွမ်း လေ့လာမှုအစီရင်ခံစာကို စက်မှုလုပ်ငန်းများဖွံ့ဖြိုးတိုးတက်ရေးကော်မတီသို့ တင်ပြရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်၏ တောင်ငူမြို့နယ်ရှိ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းဆောင်ရွက်မည့် ပဏာမဖြစ်တန်စွမ်း လေ့လာမှုအစီရင်ခံစာအား သဘောထားပြန်ကြားပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲပါ** - ပဏာမဖြစ်တန်စွမ်းလေ့လာမှုအစီရင်ခံစာ

(ဉာဏ်ဝင်း)
ဝန်ကြီးချုပ်

မိတ္တူ။

- ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ် ရန်ကုန်တိုင်းဒေသကြီး

ad Office)-4

# ကေတုမတီစက်မှုဥယျာဉ်မြို့တော်စီမံကိန်း (၂၃၅.၅၄)ဧက
# ပဏာမဖြစ်တန်စွမ်း လေ့လာမှုအစီရင်ခံစာ

၁။ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်သည် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်တွင် စက်မှုလုပ်ငန်းများ တိုးတက်ဖြစ်ပေါ်လာရေး၊ အလုပ်အကိုင်အခွင့်အလမ်းများ ဖန်တီးပေးနိုင်ရေး၊ နည်းပညာဖွံ့ဖြိုးတိုးတက်မှုများရရှိစေရေးအတွက် စက်မှုဥယျာဉ်စီမံကိန်းကို စနစ်တကျအကောင်အထည်ဖော်နိုင်ရန် တင်ပြလာမှုအပေါ် ပဏာမဖြစ်တန်စွမ်းအစီရင်ခံစာ တင်ပြခြင်းဖြစ်ပါသည်။

၂။ အဆိုပြုစီမံကိန်းသည် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ ရန်ကုန်-မန္တလေးအမြန်လမ်း အနောက်ဖက်ခြမ်း မိုင်တိုင်(၁၅၂)ဝန်းကျင်၊ နေပူကုန်းကျေးရွာအုပ်စုအနီးပတ်ဝန်းကျင်တွင် တည်ဆောက်မည်ဖြစ်ပါသည်။

၃။ ပဲခူးတိုင်းဒေသကြီးဖွံ့ဖြိုးတိုးတက်ရေးအတွက် တိုးတက်ပြောင်းလဲလာသောလူဦးရေနှင့်လိုက်လျောညီထွေရှိမည့် မိသားစုဝင်ငွေတိုးပွားစေရန်၊ အလုပ်အကိုင်အခွင့်အလမ်းသစ်များ (Job Apportunity)နှင့် ကျွမ်းကျင်မှုနည်းပညာသစ်များ (Skillful Technology)ရရှိစေရန်၊ နိုင်ငံတကာစီးပွားရေးဈေးကွက်မြှင့်တင်ရန်၊ ပြည်တွင်းပုဂ္ဂလိကလုပ်ငန်းရှင်များအား ရင်းနှီးမြှုပ်နှံရန်ဖိတ်ခေါ်၍ အကျိုးတူပူးပေါင်းဆောင်ရွက်မှုများပြုလုပ်ရန်၊ တောင်ငူမြို့၏ တိုးတက်ပြောင်းလဲလာသော လူဦးရေနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုများအရ လိုအပ်လာသော မြို့ပြအိမ်ရာတည်ဆောက်ရေးလုပ်ငန်းများကို ပြဋ္ဌာန်းထားသော ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းစည်းမျဉ်းစည်းကမ်းများနှင့်အညီ အကောင်အထည်ဖော်ရန် ရည်ရွယ်ဆောင်ရွက်သည့် လုပ်ငန်းစီမံကိန်းဖြစ်ပါသည်။

၄။ စီမံကိန်းမြေဧရိယာသည် (၁၁.၂.၂၀၁၆)တွင် စက်မှုမြေငှားဂရန်ရရှိပြီးဖြစ်၍ အခြေခံအဆောက်အအုံလုပ်ငန်းများ (Infrastructure Works)အတွက် ရင်းနှီးမြှုပ်နှံမှုခန့်မှန်းခြေကျပ် (၂၂,၇၅၃)သန်း ရည်မှန်းထားပါသည်။ အဆိုပါရင်းနှီးမြှုပ်နှံမှု၏ (၅၀%)ကို CB Bank ချေးငွေဖြင့်ဆောင်ရွက်မည်ဖြစ်ပြီး စီမံကိန်းအကောင်အထည်ဖော်မှုကာလကို (၃)နှစ်လျာထား၍ ကေတုမတီ

ဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အကောင်အထည်ဖော်ဆောင်ရွက်မည့် လုပ်ငန်းစီမံကိန်းဖြစ်ပါသည်။

၅။ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ချက်အစီရင်ခံစာ (EIA Report)ကို Green Myanmar Environmental Servicesအဖွဲ့ဖြင့် ပြုစုလျက်ရှိပါသည်။ ဤစီမံကိန်းဆောင်ရွက်မည့်နေရာသည် သစ်တောမြေဧရိယာ၊ သဘာဝပေါက်ပင်များစိမ်းလန်းစွာ ပေါက်ရောက်သောဧရိယာမဟုတ်သည့် အပြင် အဆိုပြုလွှာတွင် Buffer Zone / Green Area ထားရှိခြင်း၊ Water Treatment Plan များပြည့်စုံစွာ ထည့်သွင်းထားရှိမည်ဖြစ်ခြင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုကို ဖြစ်ပေါ်စေသည့် လေထုညစ်ညမ်းမှု(Air Pollution)၊ စွန့်ပစ်ရေ (Waste Water)၊ စွန့်ပစ်အစိုင်အခဲ(Solid Waste)တို့အား ပတ်ဝန်းကျင်အရည်အသွေး စံချိန်စံညွှန်း (Environmental Quality Standard) နှင့်အညီ သတ်မှတ်ချက်များအတိုင်း သန့်စင်ခြင်း၊ ထုတ်လွှတ်ခြင်း၊ စွန့်ပစ်ခြင်းနှင့် စုပုံခြင်းများ ပြုလုပ်မည်ဖြစ်၍ ပတ်ဝန်းကျင်အား ညစ်ညမ်းမှုသိသိသာသာမဖြစ်နိုင်ပါ။ ထို့အပြင်မီးခိုးမထွက်သည့် စက်ရုံများကို ရွေးချယ်တည်ဆောက်မည်ဖြစ်ခြင်းတို့ကြောင့် ပတ်ဝန်းကျင်ဂေဟစနစ်ကို ပျက်စီး ထိခိုက်မှုမပေါ်ပေါက်နိုင်ကြောင်း သုံးသပ်ရပါသည်။

၆။ စီမံကိန်းပါလုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနက (၂၀၁၂)ခုနှစ်၊ မတ်လတွင် ပြဋ္ဌာန်းခဲ့သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ (Environmental Conservation Law)ပါ ပြဋ္ဌာန်းချက်များ၊ (၂၀၁၄)ခုနှစ်၊ ဇွန်လတွင်အတည်ပြုထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နည်းဥပဒေ (Environmental Conservation Rules)နှင့် (၂၀၁၅)ခုနှစ်၊ ဒီဇင်ဘာလတွင် ထုတ်ပြန်သည့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ဆိုင်ရာလုပ်ထုံးလုပ်နည်း (Environmental Impact Assessment Procedure)များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း သိရှိရပါသည်။

၇။ မြေအသုံးချမှုပုံစံတွင် လူနေအိမ်ရာ (၅%)၊ ထောက်ပို့ဇုန်(၄.၆၆%)၊ စီးပွားရေးဇုန် (၆%)၊ စက်မှုဇုန် (၄၂.၃၄%)၊ လမ်းဧရိယာ(၂၅%)၊ စီမံခန့်ခွဲရေးဇုန် (၅%)၊ စိမ်းလန်းဇုန် (၇%)၊ စည်ပင်သာယာရေးဇုန်(၅%) အသုံးပြုရန် စီမံထားသည်ကို တွေ့ရှိရပါသည်။ စက်မှုဇုန်တွင်

လျှပ်စစ်မီး၊ ရေရရှိရေး၊ ရေဆိုးသန့်စင်စနစ်များ ဆောင်ရွက်ရေးစသော အခြေခံ အဆောက်အအုံ လိုအပ်ချက်များပြည့်စုံစေရန် ဦးစွာဖြည့်ဆည်းဆောင်ရွက်မည်ဖြစ်ကြောင်း သိရှိရပါသည်။

၈။ စီမံကိန်းနယ်မြေအတွက် လျှပ်စစ်ဓာတ်အားလိုအပ်ချက် (၁၆)မဂ္ဂါဝပ်ဖြစ်ပြီး မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်း၊ အုတ်တွင်းမြို့နယ်၊ ဟင်းငုတ်ပင်ဓာတ်အားခွဲရုံမှတစ်ဆင့် ဓာတ်အားပို့လွှတ်ရေးလိုင်းများ၊ ဖြန့်ဖြူးရေးလိုင်းများဖြင့် သွယ်တန်းရယူမည်ဖြစ်ပါသည်။

၉။ စက်မှုဥယျာဉ်မြို့တော်အင်္ဂါရပ်နှင့်ညီညွတ်စေရေးအတွက် ဇုန်အတွင်းပေ(၈၀)လမ်းများအား Primary Roadများအဖြစ်ထားရှိပြီး ပေ(၆၀)လမ်းများအား Secondary Roadများအဖြစ် ထားရှိပါသည်။ လမ်းပန်းဆက်သွယ်ရေးနှင့် အခြေခံအဆောက်အအုံများတိုးတက်ရေးအစီအစဉ်များ၊ လူနေဧရိယာနှင့် စက်မှုဇုန်ကြား၊ ကုန်လှောင်ဇုန်ဧရိယာများနှင့် စက်မှုဇုန်ကြားတို့တွင် ထားရှိရမည့်စိမ်းလန်းဇုန်(Buffer Area)၊ လျှပ်စစ်နှင့်စွမ်းအင်ဖူလုံစေရေးအတွက် စီမံဆောင်ရွက်မှုများ၊ ဆက်သွယ်ရေးနှင့် အင်တာနက်လိုင်းများ တပ်ဆင်ရေးဆောင်ရွက်မှုများ၊ သောက်သုံးရေဖူလုံစေရေးအတွက် အစီအစဉ်များ၊ ရေဆိုးနှင့်စွန့်ပစ်ရေထုတ်လွှတ်မှုအတွက်စီမံမှုများ၊ ဘေးအန္တရာယ်ကင်းရှင်းရေး လုံခြုံမှုရှိစေရေးစသည့် အစီအစဉ်များကို အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ပြီး၊ ထိုသို့ဆောင်ရွက်ရာတွင် တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း သိရှိရပါသည်။

၁၀။ ပဲခူးတိုင်းဒေသကြီး၏စီးပွားရေးပုံသဏ္ဍာန် (Economic Structure)သည် လယ်ယာကဏ္ဍကြီးတွင် (၃၄.၅%)၊ စက်မှုကဏ္ဍကြီးတွင် (၂၆.၁%)၊ ဝန်ဆောင်မှုကဏ္ဍကြီးတွင် (၃၉.၄%) ဖော်ဆောင်လျက်ရှိပါသည်။ တင်ပြလာသောစီမံကိန်း ဆောင်ရွက်ခြင်းဖြင့် တိုးတက်ပေါ်ပေါက်လာမည့် ရင်းနှီးမြှုပ်နှံမှုများ၊ စက်မှုကဏ္ဍထုတ်လုပ်မှုများ၊ ဝန်ဆောင်မှုကဏ္ဍမြင့်တက်မှုများသည် တိုင်းဒေသကြီး၏ စီးပွားရေးပုံသဏ္ဍာန် (Economic Structure)ကို မြင့်မားပြောင်းလဲစေသည့်အပြင် နိုင်ငံတော်၏စက်မှုနိုင်ငံအဖြစ်သို့ ဦးတည်ပြောင်းလဲရေးအတွက်ပါ အထောက်အကူပြုသောစီမံကိန်းလည်း ဖြစ်ပါသည်။

၁၁။ အလတ်စားစီးပွားရေးလုပ်ငန်းများဖြစ်သော ဒေသတွင်းစက်မှုကုန်ကြမ်းသယံဇာတ အရင်းအမြစ်များကိုအခြေခံ၍ စားသောက်ကုန်ဆိုင်ရာ စက်မှုလုပ်ငန်း၊ သစ်အခြေခံစက်မှု လုပ်ငန်း၊ လယ်ယာထွက်ကုန်အခြေခံစက်မှုလုပ်ငန်း၊ သစ်တောထွက်ကုန်အခြေခံစက်မှုလုပ်ငန်း၊ အထည်ချုပ်လုပ်ငန်း၊ သတင်းအချက်အလက်နှင့် နည်းပညာအခြေခံစက်မှုလုပ်ငန်း၊ စက်ကိရိယာနှင့် အပိုပစ္စည်းထုတ်လုပ်သည့်စက်မှုလုပ်ငန်းများ ဆောင်ရွက်ရန်လျာထားပြီး အဆိုပါစီမံကိန်းများ အောင်မြင်စွာ ဖြစ်ထွန်းပေါ်ပေါက်လာပါက လူမှုစီးပွားအခြေအနေအရ ရွှေ့ပြောင်းနေထိုင်မှု၊ ရွှေ့ပြောင်းလုပ်ကိုင်မှုများ ဖြစ်ပေါ်လာမည်ဖြစ်သည့်အတွက် အလုပ်အကိုင်အခွင့်အလမ်းများစွာ ဖော်ဆောင်နိုင်မည်ဖြစ်ပြီး မိသားစုဝင်ငွေတိုးတက်ခြင်း၊ ဆင်းရဲမှုလျော့ကျစေနိုင်ခြင်း၊ စက်မှု ကဏ္ဍဖွံ့ဖြိုးတိုးတက်ရာမှ ပြည်တွင်းပြည်ပ ကုန်သွယ်မှုများလည်းတိုးတက်ကာ ဒေသဖွံ့ဖြိုးမှုကို ရရှိစေနိုင်သော စီမံကိန်းတစ်ခုဖြစ်ပါသည်။

၁၂။ စီမံကိန်းအတွင်း မြေစည်ပင်လုပ်ငန်းများ စတင်ဆောင်ရွက်သည့်မှစ၍ စီမံကိန်း အကောင်အထည်ဖော်ပြီးသည်အထိ လုပ်ငန်းအသီးသီးတွင်အသုံးပြုမည့် အလုပ်အကိုင်အခွင့် အလမ်းများ၊ မိသားစုဝင်ငွေတိုးတက်မှုများ၊ ပဲခူးတိုင်းဒေသကြီး၏ စက်မှုလက်မှုကဏ္ဍ၊ ဆောက်လုပ်မှုကဏ္ဍ၊ ဝန်ဆောင်မှုကဏ္ဍ တန်ဖိုးမြင့်တက်မှုများ (GDP)၊ လူတစ်ဦးကျဝင်ငွေ (Per Capital GDP) တိုးတက်မှုများ၊ မြို့ပြဖြစ်ထွန်းမှုမှတစ်ဆင့်ဖြစ်ပေါ်လာမည့် လူမှုစီးပွား ဘဝဖွံ့ဖြိုးတိုးတက်မှုများနှင့် ဒေသန္တရဖွံ့ဖြိုးတိုးတက်မှုကို ဖြစ်ပေါ်စေနိုင်သည့်အတွက် ခွင့်ပြုသင့်သော စီမံကိန်းတစ်ခုဖြစ်ပါကြောင်း အစီရင်ခံတင်ပြအပ်ပါသည်။

ဉာဏ်ဝင်း

ဝန်ကြီးချုပ်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးတိုင်းဒေသကြီး

စာအမှတ်၊ ၇ / ၁ - ၁၉ / ထောက် ၃
ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၁၆ ရက်

သို့

ဥက္ကဋ္ဌ
စီးပွားရေးရာကော်မတီ
နေပြည်တော်

အကြောင်းအရာ။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအမံ တင်ပြခြင်း

ရည် ညွှန်း ချက်။ (၁) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁၀.၁၀.၂၀၁၃)ရက်စွဲပါစာအမှတ်၊ ၇ / ၁ - ၁၉ / ထောက် ၃

(၂) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၂၁.၁၁.၂၀၁၃)ရက်စွဲပါစာအမှတ်၊၂၃၉၄/ ၃၄၉ - စီမံကိန်း ၂ - ၁၉ / အဖရ (၂၀၁၃)

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် Kaytumadi Development Public Company Limited မှ အောက်ပါလုပ်ငန်းများဆောင်ရွက်ရန် စီစဉ်ဆောင်ရွက်ထားရှိပါသည်-

(က) နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်

(ခ) အိမ်ရာစီမံကိန်း

၂။ တောင်ငူမြို့၏ အနောက်ဘက် ရန်ကုန်-မန္တလေး အမြန်မလမ်းမကြီးအနီး တောင်ငူလေဆိပ်မှ (၇)ကီလိုမီတာ၊ တောင်ငူမီးရထားဘူတာကြီးမှ (၁၂)ကီလိုမီတာ အကွာရှိ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်ပိုင် လယ်ယာမြေနှင့် ဥယျာဉ်ခြံမြေ ဧရိယာ(၄၈၀၀)ဧကခန့်ပေါ်တွင် တည်ဆောက်မည့် အဆိုပြုစက်မှုဥယျာဉ်မြို့တော်တွင် အောက်ဖော်ပြပါလုပ်ငန်းများ ပါဝင်မည် ဖြစ်ပါသည်-

(က) First Kind of Residential Land

(ခ) Second Kind of Residential land

(ဂ) Administrative land

(ဃ) Cultural land

(င) Education land

(စ) Education & study land

(ဆ) Professional training land

(ဇ) School land

(ဈ) Medical treatment land

(ည) Religious facilities land

(ဋ) Commercial services land

(ဌ) Hotel land

(ဍ) Business land

(ဎ) Other commercial facilities land

(ဏ) Sports facilities land

(တ) Commual facilities land

(ထ) First class of industrial land

(ဒ) Second class of industrial land

(ဓ) First class logistics land

(န) Second class logistics land

(ပ) Artificial green land

(ဖ) Square land

(ဗ) Water

(ဘ) Forest land

(မ) Original green land

၃။ အိမ်ရာစီမံကိန်းအား ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့ရှိ ရှေးဟောင်းအမွေအနှစ်များဖြစ်သော ကောင်းမှုတော်ဘုရားကြီးနှင့် ကျုံးကြီးအနီး၊ ရန်ကုန်-မန္တလေးအမြန်လမ်းသို့ ဆက်သွယ်သည့် ထီးလှိုင်လမ်းမကြီးဘေးတွင် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ ပိုင်ဆိုင်သော မြေဧရိယာ(၅၀၀)ဧကခန့်တွင် အောက်ပါလုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(က) Residential Area

(ခ) Low Density Residential Area

(ဂ) Administrative and Office Area

(ဃ) Commercial Stablishment Area

(င) Park

(စ) Golf Course

(ဆ) Public green space

၄။ Kaytumadi Development Public Company Limited မှ တောင်ငူမြို့နယ်အတွင်း ဆောင်ရွက်မည့် Project များအား သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များ လမ်းညွှန်မှုပြု ပေးနိုင်ပါရန် ရည်ညွှန်းစာ(၁)ဖြင့် ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခဲ့မှုနှင့်ပတ်သက်ပြီး (၂၃.၁၀.၂၀၁၃) ရက်တွင် ကျင်းပပြုလုပ်သည့် စီးပွားရေးရာကော်မတီအစည်းအဝေးအမှတ်စဉ်(၁၆/၂၀၁၃)မှ "တောင်ငူမြို့ Development Plan အား [illegible]

ဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန်" ဆုံးဖြတ်ခဲ့သဖြင့် သိရှိဆောင်ရွက်နိုင်ရန် ရည်ညွှန်းစာ(၂)ဖြင့် အကြောင်းကြားလာပါသည်။

၅။ သို့ဖြစ်ပါ၍ တောင်ငူမြို့နယ်အတွင်း Kaytumadi Development Public Company Limited မှ ဆောင်ရွက်မည့် နိုင်ငံတကာအဆင့်မီတော်ဝင်ဥယျာဉ်မြို့တော်စီမံကိန်းနှင့် အိမ်ရာစီမံကိန်း Development Plan အား သိရှိနိုင်ပါရန်နှင့် လမ်းညွှန်မှုပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ပူးတွဲ

- Kaytumadi Development Public Company Limited (၁) အုပ်
  Development Plan

ဝန်ကြီးချုပ်(ကိုယ်စား)
ဝန်ကြီး၊ ဦးတင်စိုး
စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီးဌာန
ပဲခူးတိုင်းဒေသကြီး

မိတ္တူ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၊ နေပြည်တော်
မျှောစာတွဲ
လက်ခံစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ပြည်ထောင်စုအစိုးရအဖွဲ့ရုံး**

စာအမှတ်၊ ၂၄၃၃ /၃၀၈-စီမံကိန်း ၂-၁၉(၃)/အဖရ(၂၀၁၃)
ရက် စွဲ ၊ ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၂၆ ရက်

ပြည်ထောင်စုဝန်ကြီး
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးချုပ်
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီစက်မှုဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအမံ တင်ပြသည့်ကိစ္စ**

ရည် ညွှန်း ချက်။ (၁) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၀-၁၀-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၇/၁-၁၉/ထောက် ၃
(၂) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂၁-၁၁-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၂၃၉၄/၃၄၉-စီမံကိန်း ၂-၁၉/အဖရ(၂၀၁၃)
(၃) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ ၁၉-၁၁-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၂/၂၅၀(ည)(၇)(၁၃၂၇/၂၀၁၃)

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအမံအား ရည်ညွှန်း(၁)စာဖြင့် တင်ပြမှုနှင့် ပတ်သက်၍ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ ရည်ညွှန်း(၃)ပါစာဖြင့် အောက်ပါအတိုင်း တင်ပြလာပါသည်-

(က) စီမံကိန်းဆောင်ရွက်မည့်မြေနေရာများသည် လယ်ယာမြေဖြစ်ပါက အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက် အတည်ပြုပြဌာန်းပြီးဖြစ်သည့် ၂၀၁၂ ခုနှစ်၊ လယ်ယာမြေဥပဒေပုဒ်မ ၃(က)၊ ပုဒ်မ (၂၉)၊ ပုဒ်မ ၃၀ (က) (ခ)၊ ပုဒ်မ (၃၁) နှင့် ပုဒ်မ (၃၂) တို့တွင် လည်းကောင်း၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများဖြစ်ပါက အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုပြဌာန်းပြီးဖြစ်သည့် ၂၀၁၂ ခုနှစ်၊ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေးဥပဒေပုဒ်မ ၄၊ ပုဒ်မခွဲ (ဃ) အရလည်းကောင်း၊ ပြဌာန်းထားရှိပြီးဖြစ်သော တည်ဆဲဥပဒေများ၊နည်းဥပဒေများနှင့် ညီညွတ်စွာဖြင့် ဆောင်ရွက်ရန်လိုကြောင်း။

(ခ) အဆိုပြုဧရိယာများတွင် ဆည်ရေသောက်စနစ်လယ်ယာမြေများ ပါဝင်မှု ရှိ/မရှိ၊ အမှန်တကယ်စိုက်ပျိုးနေသော လယ်မြေများပါဝင်မှုရှိ/မရှိနှင့် အခြားမြေအသုံးချမှုဆိုင်ရာကိစ္စများ မြေပြင်ကွင်းဆင်းအတည်ပြုရန် လိုအပ်မည်ဖြစ်ကြောင်း။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တောင်ငူမြို့ပြစီမံကိန်းရေးဆွဲပြီးပါက ပြန်လည်ညှိနှိုင်းရန်နှင့် Delivery Unit များမှ ကွင်းဆင်းဖြေရှင်းညှိနှိုင်းဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ
နိုင်ငံတော်သမ္မတရုံး
စီးပွားရေးရာကော်မတီ
သမ္မတရုံးဝန်ကြီးဌာန(၃)
ရုံးလက်ခံ
မျှောစာတွဲ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၂/ ၂၅၀ (ည)(၇) ( /၂၀၁၃)

ရက်စွဲ၊ ၂၀၁၃ခုနှစ်၊နိုဝင်ဘာလ ၂၉ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအား အကောင်အထည်ဖော် ဆောင်ရွက်မည့် အစီအမံ တင်ပြသည့် ကိစ္စ**

ရည် ညွှန်း ချက် ။ ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ (၂၂.၁၀.၂၀၁၃)ရက်စွဲပါစာအမှတ်၊ ၂၁၃၅/ ၃၀၈-စီမံကိန်း ၂-၁၉/အဖရ(၂၀၁၃)

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ တောင်ငူမြို့နယ်အတွင်း တောင်ငူလေဆိပ်မှ (၇)ကီလိုမီတာ၊ တောင်ငူမီးရထားဘူတာကြီးမှ (၁၂)ကီလိုမီတာအကွာရှိ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်ပိုင် လယ်ယာမြေနှင့်ဥယျာဉ်ခြံမြေဧရိယာ(၄၈၀၀)ဧကခန့်အား နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်စီမံကိန်းအဖြစ်လည်းကောင်း၊ တောင်ငူမြို့ရှိ ရှေးဟောင်းအမွေအနှစ်များဖြစ်သော ကောင်းမှုတော်ဘုရားကြီးနှင့် ရန်ကုန်-မန္တလေး အမြန်လမ်းသို့ ဆက်သွယ်သည့် ထီးလှိုင်လမ်းမကြီးဘေးတွင် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကေတုမတီလီမိတက်မှ ပိုင်ဆိုင်သည့် မြေဧရိယာ(၅၀၀)ဧကခန့်အား အိမ်ရာစီမံကိန်းအဖြစ်လည်းကောင်း၊ တည်ဆောက်သွားမည်ဖြစ်ကြောင်း၊ အဆိုပါစီမံကိန်းမြေနေရာများတွင် လယ်ယာမြေနှင့် ဥယျာဉ်ခြံမြေများ ပါဝင်နေသဖြင့် မြေယာဥပဒေ လုပ်ထုံးလုပ်နည်းနှင့်အညီ စိစစ်၍ သဘောထားပြန်လည်တင်ပြပေးနိုင်ပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါအဆိုပြုဧရိယာများတွင် ဆည်ရေသောက်စနစ် လယ်ယာမြေများပါဝင်မှု ရှိ/ မရှိ ၊ အမှန်တကယ်စိုက်ပျိုးနေသော လယ်ယာမြေများပါဝင်မှု ရှိ/မရှိ နှင့် အခြားမြေအသုံးချမှုဆိုင်ရာကိစ္စများ မြေပြင်ကွင်းဆင်းအတည်ပြုရန် လိုအပ်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ စီမံကိန်းဆောင်ရွက်မည့် မြေနေရာများသည် လယ်ယာမြေဖြစ်ပါက အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရေးအတွက် အတည်ပြု ပြဋ္ဌာန်းပြီးဖြစ်သည့် ၂၀၁၂ ခုနှစ် လယ်ယာမြေဥပဒေတွင် အောက်ပါအတိုင်း တိကျစွာပြဋ္ဌာန်းထားရှိပြီး ဖြစ်ပါသည်-

ဥပဒေပုဒ်မ ၃(က)။ လယ်ယာမြေဆိုသည်မှာလယ်မြေ၊ ယာမြေ၊ ကိုင်းကျွန်းမြေ၊ တောင်ယာမြေ၊ နှစ်ရှည်ပင်စိုက်ပျိုးသောမြေ၊ ဓနိမြေ၊ ဥယျာဉ်မြေဟုသော်လည်းကောင်း၊ ဟင်းသီးဟင်းရွက်၊ ပန်းမန်စိုက်ပျိုးသည့်ခြံမြေဟုသော်လည်းကောင်း၊ မြေနုကျွန်းမြေဟုသော်

လည်းကောင်း သတ်မှတ်သည့် မြေများကိုဆိုသည်။ ယင်းစကားရပ်တွင် မြို့နယ်နိမိတ်၊ ကျေးရွာနယ်နိမိတ်အတွင်းရှိ လူနေအိမ်ရာများ၊ ဘာသာရေးအဆောက်အအုံနှင့် ပရဝဏ်များ၊ အများပိုင်ဆိုင်၍ စိုက်ပျိုးရေးအတွက် အသုံးမပြုသော မြေများမပါဝင်။

ဥပဒေပုဒ်မ ၂၉။ နိုင်ငံတော်၏ ရေရှည်အမျိုးသားအကျိုးစီးပွားအလို့ငှာ စီမံကိန်းလုပ်ငန်းကြီးများအတွက် လယ်ယာမြေကို အခြားနည်းဖြင့် အသုံးပြုရန် သက်ဆိုင်ရာ စီမံကိန်း အကောင်အထည်ဖော်မည့် ဝန်ကြီးဌာနသည် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ သဘောထားမှတ်ချက်ရယူပြီး ပြည်ထောင်စုအစိုးရအဖွဲ့၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်နိုင်သည်။

ဥပဒေပုဒ်မ ၃၀။ အများပြည်သူအကျိုးငှာ လယ်ယာမြေကိုအခြားနည်းဖြင့် အသုံးပြုရန် လျှောက်ထားချက်နှင့် စပ်လျဉ်း၍ -

(က) ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သည် လယ်မြေကို အခြားနည်းဖြင့် အသုံးပြုနိုင်ရေးအတွက် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ စိစစ်ထောက်ခံချက်ဖြင့် ခွင့်ပြုနိုင်သည်။

(ခ) သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့သည် လယ်မြေမှတစ်ပါး လယ်ယာမြေကို အခြားနည်းဖြင့် အသုံးပြုနိုင်ရေးအတွက် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ် လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ စိစစ်ထောက်ခံချက်ဖြင့် ခွင့်ပြုနိုင်သည်။

ဥပဒေပုဒ်မ ၃၁။ ပုဒ်မ ၃၀ အရ အခြားနည်းအသုံးပြုရန် ခွင့်ပြုချက်ရရှိပြီးနောက် ခွင့်ပြုသည့်နေ့ရက်မှ ခြောက်လအတွင်း လယ်ယာမြေကို သတ်မှတ်သည့်နည်းလမ်းအတိုင်း စတင်အသုံးမပြုလျှင်သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းပြီးစီးခြင်း မရှိလျှင် သော်လည်းကောင်း ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သည် ယင်းလယ်ယာမြေကို ပြန်လည်သိမ်းယူနိုင်သည်။

ဥပဒေပုဒ်မ ၃၂။ နိုင်ငံတော်အကျိုးဖြစ်ထွန်းစေမည့် စီမံကိန်းများအတွက် လယ်ယာမြေကို သိမ်းယူရာတွင် အနည်းဆုံးလိုအပ်သောပမာဏကိုသာ သိမ်းယူရမည်။ စီမံကိန်းအား သတ်မှတ်ကာလအတွင်း အမြန်ဆုံးပြီးစီးစေရန် အကောင်အထည်ဖော်ရမည်ဖြစ်ပြီး စီမံကိန်းများ ဆောင်ရွက်ခြင်း မပြုတော့ပါက မူလလယ်ယာမြေ လုပ်ပိုင်ခွင့် ရရှိထားသော ပုဂ္ဂိုလ်၊ အဖွဲ့အစည်းထံ ပြန်လည်ပေးအပ်ရမည်။

၄။ စီမံကိန်းဆောင်ရွက်မည့် မြေနေရာများသည် မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများဖြစ်ပါက အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုပြဋ္ဌာန်းပြီးဖြစ်သည့် ၂၀၁၂ ခုနှစ်၊ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေးဥပဒေပုဒ်မ ၄၊ ပုဒ်မခွဲ(ဃ) အရ အစိုးရကခွင့်ပြုထားသော ဥပဒေနှင့်ညီညွတ်သည့် အခြားလုပ်ငန်းများအတွက် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် လျှောက်ထားရမည်ဖြစ်ပြီး၊ လယ်ယာမြေကို အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်ရရှိပြီးမြေများ သို့မဟုတ် အစိုးရစီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေများဖြစ်ပါက တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ပြည်ထဲရေးဝန်ကြီးဌာန၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနတို့၏ တည်ဆဲဥပဒေများ၊ လုပ်ထုံးလုပ်နည်း ညွှန်ကြားချက်များနှင့်အညီ ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ ဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအား အကောင်အထည်ဖော် ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်ပြီး ပြဋ္ဌာန်းထားရှိပြီးဖြစ်သော တည်ဆဲဥပဒေများ၊ နည်းဥပဒေများနှင့်ညီညွတ်စွာဖြင့် ဆောင်ရွက်ရန်လိုအပ်ချက်အား အကြံပြုတင်ပြအပ်ပါသည်။

မြင့်လှိုင်
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို
နိုင်ငံတော်သမ္မတရုံး
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ပြည်ထောင်စုအစိုးရအဖွဲ့ရုံး**

စာအမှတ်၊ ၂၁၃၅ /၃၀၈-စီမံကိန်း၂-၁၉/အဖရ(၂၀၁၃)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၂၂ ရက်

ပြည်ထောင်စုဝန်ကြီး
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအမံတင်ပြသည့်ကိစ္စ**

ရည် ညွှန်း ချက်။ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၀-၁၀-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၇/၁-၁၉/ထောက် ၃

၁။ တောင်ငူမြို့နယ်အတွင်း Kaytumadi Development Public Company Limited မှ ဆောင်ရွက်မည့် နိုင်ငံတကာအဆင့်မီစက်မှုဥယျာဉ်မြို့တော်စီမံကိန်းနှင့် အိမ်ရာစီမံကိန်း လုပ်ငန်းများနှင့်ပတ်သက်၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ အောက်ပါအတိုင်းတင်ပြလာပါသည်-

(က) **နိုင်ငံတကာအဆင့်မီစက်မှုဥယျာဉ်မြို့တော်စီမံကိန်းအား** တောင်ငူလေဆိပ်မှ (၇)ကီလိုမီတာ၊ တောင်ငူမီးရထားဘူတာကြီးမှ (၁၂)ကီလိုမီတာအကွာရှိ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်ပိုင် လယ်ယာမြေနှင့် ဥယျာဉ်ခြံမြေဧရိယာ (၄၈၀၀)ဧကခန့်ပေါ်တွင် တည်ဆောက်မည်ဖြစ်ပြီး လုပ်ငန်းစဉ် (၂၅)ခု ပါဝင်မည်ဖြစ်ကြောင်း။

(ခ) **အိမ်ရာစီမံကိန်းအား** တောင်ငူမြို့ရှိ ရှေးဟောင်းအမွေအနှစ်များဖြစ်သော ကောင်းမှုတော်ဘုရားကြီးနှင့် ကျုံးကြီးအနီး၊ ရန်ကုန်-မန္တလေးအမြန်လမ်းသို့ ဆက်သွယ်သည့် ထီးလှိုင်လမ်းမကြီးဘေးတွင် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှပိုင်ဆိုင်သည့် မြေဧရိယာ (၅၀၀) ဧကခန့်တွင် တည်ဆောက်မည်ဖြစ်ပြီး၊ လုပ်ငန်းစဉ်(၇)ခုပါဝင်မည်ဖြစ်ကြောင်း။

၂။ အဆိုပါစီမံကိန်းမြေနေရာများတွင် လယ်ယာမြေနှင့် ဥယျာဉ်ခြံမြေများ ပါဝင်နေသဖြင့် မြေယာဥပဒေလုပ်ထုံးလုပ်နည်းနှင့်အညီစိစစ်၍ သဘောထားပြန်လည်တင်ပြနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ပူးတွဲ။ ရည်ညွှန်းတင်ပြစာမိတ္တူ(၂)ရွက်၊ စီမံကိန်းအဆိုပြုတင်ပြချက်စာအုပ်မိတ္တူ(၁)အုပ်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ

နိုင်ငံတော်သမ္မတရုံး

P4/10-Bago




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

စာအမှတ်၊ ၂၈၇၉/၃၃၆-စီမံကိန်း ၂-၁၉(၆)/အဖရ(၂၀၁၃)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ အောက်တိုဘာလ ၁၇ ရက်

ဦးတင်နိုင်သိန်း
အတွင်းရေးမှူး
စီးပွားရေးရာကော်မတီ

အကြောင်းအရာ။ အမှုတွဲလွှဲပြောင်းပေးပို့ခြင်း

ရည်ညွှန်းချက်။ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၀-၁၀-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၇/၁-၁၉/ထောက် ၃

တောင်ငူမြို့နယ်အတွင်း Kaytumadi Development Public Company Limited မှ ဆောင်ရွက်မည့် နိုင်ငံတကာအဆင့်မီစက်မှုဥယျာဥ်မြို့တော်စီမံကိန်းနှင့် အိမ်ရာစီမံကိန်းလုပ်ငန်းများနှင့်ပတ်သက်၍ ရည်ညွှန်းစာဖြင့် တင်ပြလာမှုအား လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အမှုတွဲလွှဲပြောင်းပေးပို့အပ်ပါသည်။

ပူးတွဲ။ ရုံးတွင်းတင်ပြစာ(၁)ရွက်။
ရည်ညွှန်းတင်ပြစာ(၂)ရွက်။
စီမံကိန်းအဆိုပြုတင်ပြချက်စာအုပ်(၁)အုပ်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ
နိုင်ငံတော်သမ္မတရုံး
သမ္မတရုံးဝန်ကြီးဌာန(၆)
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့
ရုံးလက်ခံ
မျှောစာတွဲ

P3C9-B200

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

ပဲခူးတိုင်းဒေသကြီး

စာအမှတ်၊ ၇ / ၁ - ၁၉ / ထောက် ၃

ရက်စွဲ ၊၂၀၁၃ ခုနှစ်၊အောက်တိုဘာလ၁၀ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

နေပြည်တော်

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်မည့်အစီအမံ တင်ပြခြင်း**

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် Kaytumadi Development Public Company Limited မှ အောက်ပါလုပ်ငန်းများဆောင်ရွက်ရန် စီစဉ်ဆောင်ရွက်ထားရှိပါသည်-

(က) နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်

(ခ) အိမ်ရာစီမံကိန်း

၂။ တောင်ငူမြို့၏ အနောက်ဘက် ရန်ကုန်-မန္တလေး အမြန်မလမ်းမကြီးအနီး တောင်ငူလေဆိပ်မှ (၇)ကီလိုမီတာ၊ တောင်ငူမီးရထားဘူတာကြီးမှ (၁၂)ကီလိုမီတာ အကွာရှိ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်ပိုင် လယ်ယာမြေနှင့် ဥယျာဉ်ခြံမြေ ဧရိယာ(၄၈၀၀)ဧကခန့်ပေါ်တွင် တည်ဆောက်မည့် အဆိုပြုစက်မှုဥယျာဉ်မြို့တော်တွင် အောက်ဖော်ပြပါလုပ်ငန်းများ ပါဝင်မည်ဖြစ်ပါသည်-

(က) First Kind of Residential Land

(ခ) Second Kind of Residential land

(ဂ) Administrative land

(ဃ) Cultural land

(င) Education land

(စ) Education & study land

(ဆ) Professional training land

(ဇ) School land

(ဈ) Medical treatment land

(ည) Religious facilities land

(ဋ) Commercial services land

(ဌ) Hotel land

(ဍ) Business land

(ဎ) Other commercial facilities land

(ဏ) Sports facilities land

(တ) Commual facilities land

(ထ) First class of industrial land

(ဒ) Second class of industrial land

(ခ) First class logistics land
(န) Second class logistics land
(ပ) Artificial green land
(ဖ) Square land
(ဗ) Water
(ဘ) Forest land
(မ) Original green land

၃။ အိမ်ရာစီမံကိန်းအား ပဲခူးတိုင်းဒေသကြီး တောင်ငူမြို့ရှိ ရှေးဟောင်းအမွေအနှစ်များဖြစ်သော ကောင်းမှုတော်ဘုရားကြီးနှင့် ကျုံးကြီးအနီး၊ ရန်ကုန်-မန္တလေးအမြန်လမ်းသို့ ဆက်သွယ်သည့် ထီးလှိုင်လမ်းမကြီးအားတွင် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ ပိုင်ဆိုင်သော မြေဧရိယာ(၅၀၀)ကေခန့်တွင် အောက်ပါလုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(က) Residential Area
(ခ) Low Density Residential Area
(ဂ) Administrative and Office Area
(ဃ) Commercial Stablishment Area
(င) Park
(စ) Golf Course
(ဆ) Public green space

၄။ သို့ဖြစ်ပါ၍ Kaytumadi Development Public Company Limited မှ တောင်ငူမြို့နယ် အတွင်း ဆောင်ရွက်မည့် Project များအား သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များ လမ်းညွှန်မှုပြုပေးနိုင်ပါ ရန် တင်ပြအစီရင်ခံအပ်ပါသည်။

ပူးတွဲ

- Kaytumadi Development Public Company Limited (၁) အုပ်
  Project တင်ပြချက်

10.1.?

ဝန်ကြီးချုပ်(ကိုယ်စား)
ဝန်ကြီး၊ ဦးကျော်မြင့်
စီမံကိန်းနှင့်စီးပွားရေးဝန်ကြီးဌာန
ပဲခူးတိုင်းဒေသကြီး

မိတ္တူ
နိုင်ငံတော်သမ္မတရုံး၊ နေပြည်တော်
မျှောစာတွဲ
လက်ခံစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**ပြည်ထောင်စုအစိုးရအဖွဲ့ရုံး**

စာအမှတ် ၂၀ /၃၄၉-စီမံကိန်း ၂-၁၉/အဖရ(၂၀၁၄)

ရက် စွဲ ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီလ ရက်

သို့

ဝန်ကြီးချုပ်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအမံတင်ပြသည့်ကိစ္စ**

ရည် ညွှန်း ချက် ။

(၁) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၀-၁၀-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၇/၁-၁၉/ဆောက် ၃

(၂) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂၁-၁၁-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၂၃၉၄/၃၄၉-စီမံကိန်း ၂-၁၉/အဖရ (၂၀၁၃)

(၃) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၆-၁၂-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၇/၁-၁၉/ဆောက် ၃

၁။ တောင်ငူမြို့နယ်အတွင်း Kaytumadi Development Public Company Limited မှ ဆောင်ရွက်မည့် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်စီမံကိန်းနှင့် အိမ်ရာစီမံကိန်းလုပ်ငန်းများ တင်ပြလာမှုနှင့်ပတ်သက်၍ (၂၃-၁၀-၂၀၁၃) ရက်တွင် ကျင်းပပြုလုပ်သည့် စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၆/၂၀၁၃) မှ **"တောင်ငူမြို့ Development Plan အား စီးပွားရေးရာကော်မတီသို့ အမြန်ပေးပို့တင်ပြရန်နှင့် လယ်ယာမြေဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန်"** ဆုံးဖြတ်ချက်အား ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ရည်ညွှန်း(၃)ပါစာဖြင့် စီးပွားရေးရာကော်မတီသို့တင်ပြခဲ့ရာ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၄) မှ **"Township Development Plan နှင့်အညီ ဆောင်ရွက်ရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ရန်"** ဆုံးဖြတ်ခဲ့ပါသဖြင့် သိရှိဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဇော်သန်းသင်း

ညွှန်ကြားရေးမှူးချုပ်

မိတ္တူ

နိုင်ငံတော်သမ္မတရုံး

P2/10-Bago



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၂၂ ( ၂ ) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ မတ်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်နှင့် အိမ်ယာစီမံကိန်း တည်ဆောက်လိုသည့် ကိစ္စ**

ရည်ညွှန်းချက် ။ ကေတုမတီ ဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၏ ၁၉-၃-၂၀၁၄ ရက်စွဲပါစာအမှတ်၊ မြေယာ / RED / ၀၀၅ / ၂၀၁၄

ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ စက်မှုဇုန်ဥယျာဉ်စီမံကိန်းနှင့် အိမ်ယာစီမံကိန်းအား တောင်ငူမြို့တွင် တည်ဆောက် အကောင်အထည်ဖော်ဆောင်ရွက်လိုပါကြောင်း တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အဆိုပါကေတုမတီ ဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၏ မြေပိုင်ဆိုင်မှု၊ မြေအသုံးချပိုင်ခွင့်နှင့်ပတ်သက်၍ ဥပဒေနှင့်အညီစိစစ်၍ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ထောက်ခံချက်ဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြပြီး လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

**ပူးတွဲ ကုမ္ပဏီ၏ တင်ပြစာ (၁) အုပ်**

(signature)

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

D:\2014\March\Mar 26\22-2.doc

စီးပွားရေးရာကော်မတီ
သမ္မတရုံးဝန်ကြီးဌာန(၃)
သမ္မတရုံးဝန်ကြီးဌာန(၅)
သမ္မတရုံးဝန်ကြီးဌာန (၆)
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးလက်ခံ
မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၂၂ ( ၂ ) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ မတ်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်နှင့် အိမ်ယာစီမံကိန်း တည်ဆောက်လိုသည့် ကိစ္စ**

ရည်ညွှန်းချက် ။ ကေတုမတီ ဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၏ ၁၉-၃-၂၀၁၄ ရက်စွဲပါစာအမှတ်၊ မြေယာ / RED / ၀၀၅ / ၂၀၁၄

ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ နိုင်ငံတကာအဆင့်မီ စက်မှုဇုန်ဥယျာဉ်စီမံကိန်းနှင့် အိမ်ယာစီမံကိန်းအား တောင်ငူမြို့တွင် တည်ဆောက် အကောင်အထည်ဖော်ဆောင်ရွက်လိုပါကြောင်း တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အဆိုပါကေတုမတီ ဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၏ မြေပိုင်ဆိုင်မှု၊ မြေအသုံးချပိုင်ခွင့်နှင့်ပတ်သက်၍ ဥပဒေနှင့်အညီစိစစ်၍ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ထောက်ခံချက်ဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ တင်ပြပြီး လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

**ပူးတွဲ ကုမ္ပဏီ၏ တင်ပြစာ (၁) အုပ်**

(signature)

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

D:\2014\March\Mar 26\22-2.doc

စီးပွားရေးရာကော်မတီ
သမ္မတရုံးဝန်ကြီးဌာန(၃)
သမ္မတရုံးဝန်ကြီးဌာန(၅)
သမ္မတရုံးဝန်ကြီးဌာန (၆)
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးလက်ခံ
မျှောစာတွဲ



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ပြည်ထောင်စုအစိုးရအဖွဲ့ရုံး**

စာအမှတ် ၂၀ /၃၄၉-စီမံကိန်း ၂-၁၉/အဖရ(၂၀၁၄)

ရက် စွဲ ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီလ ရက်

သို့

ဝန်ကြီးချုပ်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး တောင်ငူမြို့တွင် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်နှင့် အိမ်ရာစီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်မည့် အစီအမံတင်ပြသည့်ကိစ္စ**

ရည် ညွှန်း ချက် ။
(၁) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၀-၁၀-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၇/၁-၁၉/ထောက် ၃
(၂) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၂၁-၁၁-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၂၃၉၄/၃၄၉-စီမံကိန်း ၂-၁၉/အဖရ (၂၀၁၃)
(၃) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၁၆-၁၂-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၇/၁-၁၉/ထောက် ၃

၁။ တောင်ငူမြို့နယ်အတွင်း Kaytumadi Development Public Company Limited မှ ဆောင်ရွက်မည့် နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော်စီမံကိန်းနှင့် အိမ်ရာစီမံကိန်းလုပ်ငန်းများ တင်ပြလာမှုနှင့်ပတ်သက်၍ (၂၃-၁၀-၂၀၁၃) ရက်တွင် ကျင်းပြုလုပ်သည့် စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၆/၂၀၁၃) မှ **"တောင်ငူမြို့ Development Plan အား စီးပွားရေးရာကော်မတီသို့ အမြန်ပေးပို့တင်ပြရန်နှင့် လယ်ယာမြေဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ရန်"** ဆုံးဖြတ်ချက်အား ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ရည်ညွှန်း(၃)ပါစာဖြင့် စီးပွားရေးရာကော်မတီသို့တင်ပြခဲ့ရာ စီးပွားရေးရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၄) မှ **"Township Development Plan နှင့်အညီ ဆောင်ရွက်ရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ရန်"** ဆုံးဖြတ်ခဲ့ပါသဖြင့် သိရှိဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ

နိုင်ငံတော်သမ္မတရုံး

၃။ လယ်ယာမြေအား အခြားနည်း အသုံးပြုခွင့် ရရှိသူအနေဖြင့် လယ်ယာမြေဥပဒေပုဒ်မ ၃၁၊ နည်းဥပဒေ ၉၁ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်သွားရန်နှင့် သက်ဆိုင်ရာ လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့အဆင့်ဆင့်မှ အထက်ဖော်ပြပါ လယ်ယာမြေဥပဒေ၊ နည်းဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ စိစစ်ဆောင်ရွက်သွားရန်ဖြစ်ကြောင်း၊ လက်ရှိမြေပြင်တွင် (၆)လအတွင်း လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်ထားရှိမှု အခြေအနေအား ဓာတ်ပုံမှတ်တမ်းများနှင့်အတူ စိစစ်ပြီး ပြန်လည်တင်ပြသွားရန် အကြောင်းကြားအပ်ပါသည်။

သတိုးအောင်
အတွင်းရေးမှူး
ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့

<u>ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၊</u>
<u>တော်ဝင် ကေတုမတီလမ်းနှင့် မိုလ်မှူးဖိုးကွန်းလမ်းထောင့်၊(၁၁)ရပ်ကွက်-မန်းရပ်၊</u>
<u>တောင်ငူမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး</u>

မိတ္တူ။

ပဲခူးတိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးတိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန
တောင်ငူခရိုင်မြေစာရင်းဦးစီးဌာန
တောင်ငူမြို့နယ်မြေစာရင်းဦးစီးဌာန (မြေအသုံးချမှုစာရင်းများ၊ စာရင်းမြေပုံတွင် ပြောင်းလဲမှတ်သားနိုင်ရန် အကြောင်းကြားချက်ဖြင့် ပေးပို့ပါသည်။)
လက်ခံ။

# ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
## လယ်မြေအား အခြားနည်းဖြင့်အသုံးပြုရန် ခွင့်ပြုမိန့်

ပဲခူး တိုင်းဒေသကြီး/ပြည်နယ်၊ တောင်ငူ ခရိုင်၊ တောင်ငူ မြို့နယ်၊ - ရပ်ကွက်/ ကျေးရွာအုပ်စုနေ ဦး - ၏ သား/ သမီး ဦး/ဒေါ်/ အဖွဲ့အစည်း ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက် နိုင်ငံသား/ အမျိုးသားစိစစ်ရေးကတ်အမှတ် - အား လယ်ယာမြေဥပဒေပုဒ်မ ၂၉ နှင့် ၃၀ တို့အရ အောက်ဖော်ပြပါ လယ်မြေကို သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့်အညီ အခြားနည်းဖြင့်အသုံးပြုခွင့်ပြုလိုက်သည်။

အခြားနည်းအသုံးပြုခွင့်ပြုသည့် လယ်မြေအကြောင်းအရာ
ပဲခူး ၊ တိုင်းဒေသကြီး/ပြည်နယ်၊ တောင်ငူ ခရိုင်၊ တောင်ငူ မြို့နယ်

| စဉ် | ရပ်ကွက်/ ကျေးရွာ အုပ်စု | ကွင်း/ အကွက် အမှတ်နှင့် အမည် | ဦးပိုင် အမှတ် | မြေမျိုး | ခွင့်ပြုသည့် ဧရိယာ | | ခွင့်ပြုသည့် နည်းလမ်း | မှတ် ချက် |
|---|---|---|---|---|---|---|---|---|
| | | | | | ဧက | ဒသမ | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| | နေပူကုန်း | ၅၈၆ ကံဈယာကွင်း | (၁၀၅) ဦးပိုင် | လယ် | ၂၈၄ | ၃၂ | နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ်မြို့တော် | |
| | | | | | ၂၈၄ | ၃၂ | | |

သက်သေခံမြေပုံပူးတွဲထားပါသည်။

ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ ( ၂၆-၃-၂၀၁၅ ) ရက်နေ့ အစည်းအဝေးအမှတ်စဉ် (၈/ ၂၀၁၅ ) ဆုံးဖြတ်ချက်အမှတ် ၁(က) အရ လက်မှတ်ရေးထိုးထုတ်ပေးခြင်းဖြစ်သည်။




( )
အတွင်းရေးမှူး
ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
နေပြည်တော်

စာအမှတ်၊ ၁၅/ လယ-၃၀( ၂၀၀ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ( ၂၂ ) ရက်





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့

စာအမှတ်၊၁၅/လယ-၃၀(၁၂၉/၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ( ၂၂ )ရက်

အကြောင်းအရာ။ လယ်မြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် (ပုံစံ-၁၅) များ ပေးပို့ခြင်း

ရည် ညွှန်း ချက် ။ (၁) ပဲခူးတိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၃၀.၃.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၅၀၀၇/လယ်စီ(တိုင်းဒေသကြီး)(၀၆)(က)

(၂) ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၁.၄.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ၂/လယ-၃၀(၀၈၀/၂၀၁၅)

(၃) နိုင်ငံတော်သမ္မတရုံး၏ (၂၁.၅.၂၀၁၅)ရက်စွဲပါစာအမှတ်၊ ၈၇(၆)(၁)/ ၇/သမ္မတရုံး

၁။ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၊ တော်ဝင်ကေတုမတီလမ်းနှင့် ဗိုလ်မှူးဖိုးကွန်းလမ်းထောင့်၊ (၁၁)ရပ်ကွက်-မန်းရပ်၊ တောင်ငူမြို့နယ်၊ ပဲခူးတိုင်းဒေသကြီးမှ တောင်ငူခရိုင်၊ တောင်ငူမြို့နယ်၊ နေပူကုန်း၊ ပဲချက်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်(၅၈၇၊ ၅၉၂-က၊ ၅၉၉-ဂ၊ ၅၈၅-က၊ ၅၈၅-ခ) အတွင်းရှိ လယ်မြေဧရိယာ (၂၃၈.၀၄) ဧကကို အခြားနည်းဖြင့် အသုံးပြုရန် လျှောက်ထားလာမှုအပေါ် ပဲခူးတိုင်းဒေသကြီး လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ စိစစ်ထောက်ခံချက်ဖြင့် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ ပေးပို့တင်ပြလာပါသည်။

၂။ လယ်ယာမြေကိုအခြားနည်းဖြင့်အသုံးပြုရန် လျှောက်ထားချက်နှင့်စပ်လျဉ်း၍ လယ်ယာမြေဥပဒေပုဒ်မ ၃၀(က)အရ ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၂၆.၃.၂၀၁၅) ရက်နေ့ အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၅)အရ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပဲခူးတိုင်းဒေသကြီး လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှစိစစ်တင်ပြလာမှုကို ရည်ညွှန်းချက်(၂)ပါစာဖြင့် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့မှ နိုင်ငံတော်သမ္မတရုံးသို့ ခွင့်ပြုလမ်းညွှန်ပေးနိုင်ပါရန် တင်ပြခဲ့မှုအပေါ် နိုင်ငံတော်သမ္မတရုံးမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် လယ်ယာမြေဥပဒေအရ လယ်ယာမြေ အခြားနည်း အသုံးပြုခွင့်ရရှိရေး ဆောင်ရွက်ပေးသွားရန်နှင့် (၆)လအတွင်း အကောင်အထည်ဖော်ခြင်းမရှိပါက မူလလယ်ယာမြေအဖြစ် သတ်မှတ်သွားရန် အကြောင်းကြားလာပါသည်။

၃။ လယ်ယာမြေအား အခြားနည်း အသုံးပြုခွင့် ရရှိသူအနေဖြင့် လယ်ယာမြေဥပဒေပုဒ်မ ၃၁၊ နည်းဥပဒေ ၉၁ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်သွားရန်နှင့် သက်ဆိုင်ရာ လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့အဆင့်ဆင့်မှ အထက်ဖော်ပြပါ လယ်ယာမြေဥပဒေ၊ နည်းဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ စိစစ်ဆောင်ရွက်သွားရန်ဖြစ်ကြောင်း၊ လက်ရှိမြေပြင်တွင် (၆)လအတွင်း လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်ထားရှိမှု အခြေအနေအား ဓာတ်ပုံမှတ်တမ်းများနှင့်အတူ စိစစ်ပြီး ပြန်လည်တင်ပြသွားရန် အကြောင်းကြားအပ်ပါသည်။

သတိုးအောင်
အတွင်းရေးမှူး
ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့

<u>ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၊</u>
<u>တော်ဝင် ကေတုမတီလမ်းနှင့် ဗိုလ်မှူးဖိုးကွန်းလမ်းထောင့်၊(၁၁)ရပ်ကွက်-မန်းရပ်၊</u>
<u>တောင်ငူမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး</u>

မိတ္တူ။

ပဲခူးတိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

ပဲခူးတိုင်းဒေသကြီးမြေစာရင်းဦးစီးဌာန

တောင်ငူခရိုင်မြေစာရင်းဦးစီးဌာန

တောင်ငူမြို့နယ်မြေစာရင်းဦးစီးဌာန (မြေအသုံးချမှုစာရင်းများ၊ စာရင်းမြေပုံတွင် ပြောင်းလဲမှတ်သားနိုင်ရန် အကြောင်းကြားချက်ဖြင့် ပေးပို့ပါသည်။)

လက်ခံ။

## ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
## လယ်မြေအား အခြားနည်းဖြင့်အသုံးပြုရန် ခွင့်ပြုမိန့်

ပဲခူး တိုင်းဒေသကြီး/ပြည်နယ်၊ တောင်ငူ ခရိုင်၊ တောင်ငူ မြို့နယ်၊ - ရပ်ကွက်/ ကျေးရွာအုပ်စုနေ ဦး - ၏ သား/ သမီး ဦး/ဒေါ်/ အဖွဲ့အစည်း ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက် နိုင်ငံသား/ အမျိုးသားစိစစ်ရေးကတ်အမှတ် - အား လယ်ယာမြေဥပဒေပုဒ်မ ၂၉ နှင့် ၃၀ တို့အရ အောက်ဖော်ပြပါ လယ်မြေကို သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့်အညီ အခြားနည်းဖြင့်အသုံးပြုခွင့်ပြုလိုက်သည်။

အခြားနည်းအသုံးပြုခွင့်ပြုသည့် လယ်မြေအကြောင်းအရာ
ပဲခူး ၊ တိုင်းဒေသကြီး/ပြည်နယ်၊ တောင်ငူ ခရိုင်၊ တောင်ငူ မြို့နယ်

| စဉ် | ရပ်ကွက်/ ကျေးရွာ အုပ်စု | ကွင်း/ အကွက် အမှတ်နှင့် အမည် | ဦးပိုင် အမှတ် | မြေမျိုး | ခွင့်ပြုသည့် ဧရိယာ ဧက | ခွင့်ပြုသည့် ဧရိယာ ဒဿမ | ခွင့်ပြုသည့် နည်းလမ်း | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ | ၈ | ၉ |
| | နေပူကုန်း ပဲချက်ကုန်း | ၅၈၇ ၅၉၂-က ၅၉၉-ဂ ၅၈၅-က ၅၈၅-ခ နေပူကုန်းကွင်း၊ ဝမ်းဘဲစာကွင်း၊ နေပူကုန်းတော် အရှေ့ကွင်း၊ ပဲချက်ကုန်း မြောက်ကွင်း၊ ပဲချက်ကုန်းတောင် ကွင်း | (၆၉) ဦးပိုင် | လယ် | ၂၃၈ | ၀၄ | နိုင်ငံတကာအဆင့်မီ စက်မှုဥယျာဉ် မြို့တော် | |
| | | | | | ၂၃၈ | ၀၄ | | |

သက်သေခံမြေပုံပူးတွဲထားပါသည်။

ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ ( ၂၆-၃-၂၀၁၅ ) ရက်နေ့ အစည်းအဝေးအမှတ်စဉ် ( ၈/ ၂၀၁၅ ) ဆုံးဖြတ်ချက်အမှတ် ၁(က) အရ လက်မှတ်ရေးထိုးထုတ်ပေးခြင်းဖြစ်သည်။




( )
အတွင်းရေးမှူး
ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
နေပြည်တော်

စာအမှတ်၊ ၁၅/ လယ- ၃၀( ၁၉၉ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ( ၂၂ ) ရက်

KAYTUMADI DEVELOPMENT PUBLIC COMPANY LIMITED

5th Floor, Saya San Plaza, Corner of New University Avenue & Saya San Road,
Bahan Township, Yangon, Republic of the Union of Myanmar.
Tel: +95(0)9-863 5910
E-mail: kma.bde.5@gmail.com

---

ရက်စွဲ ၊ ၂၀၁၆ခုနှစ်၊ မတ်လ ၇ ရက်

သို့

ဝန်ကြီးချုပ်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ စက်မှုဝန်ကြီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ စီမံခန့်ခွဲရေးကော်မတီဖွဲ့စည်းပေးပါရန်ကိစ္စ

ရည် ညွှန်း ချက် ။ စက်မှုဝန်ကြီးဌာန၏ ၂၅-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၄၂၆၃)နှင့် ၂၀၁၅-၂၀၁၆ (၄၂၇၁)

အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ စက်မှုဝန်ကြီးဌာန၏ ရည်ညွှန်းပါစာအရ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ တောင်ငူမြို့နယ် နေပုကုန်းကျေးရွာအုပ်စု ကေ(၂၃၅.၅၄)နှင့် ပဲချုပ်ကုန်းကျေးရွာအုပ်စု ဓကေ(၁၃၁၁)တို့တွင် ကေတုမတီစက်မှုဥယျာဉ်စီမံကိန်းမြို့တော် တည်ဆောက်ရန်အတွက် ဒေသဆိုင်ရာအာဏာပိုင်များပါဝင်သော စီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်ရန် လိုအပ်ပါသဖြင့် အောက်ဖော်ပြပါ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ ပုဂ္ဂိုလ်များနှင့် တိုင်းဒေသကြီးမှ ပုဂ္ဂိုလ်များပါဝင်သော စီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်ပေး နိုင်ရန်အတွက် ရှိသေလေးစားစွာဖြင့် တင်ပြအပ်ပါသည်-

၁။ ဒေါ်ခင်လှလှ - ဥက္ကဋ္ဌ
၂။ ဒေါ်စတယ်လာကျော်ဝင်း - အမှုဆောင်အရာရှိချုပ်
၃။ မစွတာအန်ဒီ - အင်ဂျင်နီယာချုပ်(ဗိသုကာ)
၄။ ဦးသန်းလှ - အင်ဂျင်နီယာချုပ် (မြို့ပြ)
၅။ ဦးဆန်းထွန်း - အင်ဂျင်နီယာချုပ်(လျှပ်စစ်)
၆။ ဦးအောင်သိုက် - အင်ဂျင်နီယာ(ရေ)
၇။ ဦးလွင် - အင်ဂျင်နီယာ (ဗိသုကာ)

(ခင်လှလှ)

ဥက္ကဋ္ဌ

ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်

သက်ဆိုင်သောကုမ္ပဏီလီမိတက်




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့
ရုံးအမိန့်အမှတ်၊ ( ၂၂ / ၂၀၁၆)
၁၃၇၇ ခုနှစ်၊တပို့တွဲလပြည့်ကျော်(၁၄ )ရက်
၂၀၁၆ ခုနှစ်၊ မတ်လ( ၈ )ရက်

အကြောင်းအရာ။ **ကေတုမတီစက်မှုဥယျာဉ်စီမံကိန်းမြို့တော်ဆောင်ရွက်ရန် စီမံခန့်ခွဲရေးကော်မတီဖွဲ့စည်းတာဝန်ပေးအပ်ခြင်း**

ရည်ညွှန်းချက် ။ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်၏ (၇.၃.၂၀၁၆)ရက်စွဲပါတင်ပြစာ

၁။ စက်မှုဝန်ကြီးဌာန၏ ညွှန်ကြားချက်အရ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု မြေ(၂၃၅.၅၄)ကေနှင့် ပဲချက်ကုန်းကျေးရွာအုပ်စု မြေ(၁၃၁၁)ကေတို့တွင် ကေတုမတီစက်မှုဥယျာဉ်စီမံကိန်းမြို့တော် တည်ဆောက်ရန်အတွက် ဒေသဆိုင်ရာအာဏာပိုင်များနှင့် ကုမ္ပဏီမှပုဂ္ဂိုလ်များပါဝင်သော စီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် တင်ပြလာမှုအပေါ် စီမံခန့်ခွဲရေးကော်မတီအား အောက်ပါပုဂ္ဂိုလ်များဖြင့် ဖွဲ့စည်းတာဝန်ပေးအပ်လိုက်သည်-

| | | | |
|---|---|---|---|
| (က) | ဝန်ကြီး | လျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီးဌာန<br>ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ပဲခူးမြို့ | ဥက္ကဋ္ဌ |
| (ခ) | တိုင်းဒေသကြီးလျှပ်စစ်အင်ဂျင်နီယာ | တိုင်းဒေသကြီးလျှပ်စစ်ဓာတ်အား<br>ဖြန့်ဖြူးရေးလုပ်ငန်း | အဖွဲ့ဝင် |
| (ဂ) | တိုင်းဒေသကြီးဦးစီးမှူး | တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲရေးနှင့်<br>စာရင်းအင်းဦးစီးဌာန | အဖွဲ့ဝင် |
| (ဃ) | တိုင်းဒေသကြီးဦးစီးမှူး | တိုင်းဒေသကြီးမြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေး<br>ဦးစီးဌာန | အဖွဲ့ဝင် |
| (င) | တိုင်းဒေသကြီးဦးစီးမှူး | တိုင်းဒေသကြီးပတ်ဝန်းကျင်ထိန်းသိမ်းရေး<br>ဦးစီးဌာန | အဖွဲ့ဝင် |

| | | |
|---|---|---|
| (စ) တိုင်းဒေသကြီးဦးစီးမှူး | တိုင်းဒေသကြီးပြည်သူ့ကျန်းမာရေး ဦးစီးဌာန | အဖွဲ့ဝင် |
| (ဆ) တိုင်းဒေသကြီးဦးစီးမှူး | တိုင်းဒေသကြီးအလုပ်ရုံနှင့်အလုပ်သမား ဥပဒေစစ်ဆေးရေးဦးစီးဌာန | အဖွဲ့ဝင် |
| (ဇ) တိုင်းဒေသကြီးဦးစီးမှူး | တိုင်းဒေသကြီးစီမံကိန်း ရေးဆွဲရေးဦးစီးဌာန | အဖွဲ့ဝင် |
| (ဈ) ဒေါ်ခင်လှလှ | ဥက္ကဋ္ဌ ကေတုမတီကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (ည) ဒေါ်စတယ်လာကျော်ဝင်း | အမှုဆောင်အရာရှိချုပ် ကေတုမတီကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (ဋ) မစ္စတာအန်ဒီ | အင်ဂျင်နီယာချုပ်(ဗိသုကာ) ကေတုမတီကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (ဌ) ဦးသန်းလှ | အင်ဂျင်နီယာချုပ်(မြို့ပြ) ကေတုမတီကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (ဍ) ဦးဆန်းထွန်း | အင်ဂျင်နီယာချုပ်(လျှပ်စစ်) ကေတုမတီကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (ဎ) ဦးအောင်သိုက် | အင်ဂျင်နီယာ(ရေ) ကေတုမတီကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (ဏ)ဦးလွင် | အင်ဂျင်နီယာ(ဗိသုကာ) ကေတုမတီကုမ္ပဏီလီမိတက် | အဖွဲ့ဝင် |
| (တ) ညွှန်ကြားရေးမှူး | တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | အတွင်းရေးမှူး |
| (ထ) တိုင်းဒေသကြီးဦးစီးမှူး | တိုင်းဒေသကြီးစက်မှုကြီးကြပ် ရေးနှင့်စစ်ဆေးရေးဦးစီးဌာန | တွဲဖက်အတွင်းရေးမှူး |

၂။ အဆိုပါအဖွဲ့သည် ကေတုမတီစက်မှုဥယျာဉ်စီမံကိန်းမြို့တော်တည်ဆောက်ရေးနှင့် ပတ်သက်သည့် ဆောင်ရွက်ရမည့်လုပ်ငန်းများအား လုပ်ထုံးလုပ်နည်းနှင့်အညီ ကြီးကြပ်ကွပ်ကဲ ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

ပုံ××××
(ဉာဏ်ဝင်း)
ဝန်ကြီးချုပ်

စာအမှတ်၊ ၈ / ၁ - ၉ / ဦး ၈ (၀၆၅)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ၊ မတ်လ ၈ ရက်

**ဖြန့်ဝေခြင်း**

ကော်မတီဝင်များအားလုံး

**မိတ္တူကို**

ရုံးအမိန့်စာတွဲ
မျှောစာတွဲ
လက်ခံစာတွဲ

အမိန့်အရ-

၈/၃/၂၀၁၆
တိုးဝင်း
အတွင်းရေးမှူး

TZNL(Head Office)-91

ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော

ကုမ္ပဏီလီမိတက်

က

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

အကောင်အထည်ဖော်ဆောင်ရွက်မည့် စက်မှုဥယျာဉ်
မြို့တော်စီမံကိန်း (နေပူကုန်းကျေးရွာ ၊ ၂၃၅.၅၄ဧက)
၏ မြေယာဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းဆိုင်ရာ

အဆိုပြုတင်ပြချက်

## Kaytumadi Development Public Company Limited

## လုပ်ငန်းခွင်သာယာရေးနှင့် သက်သာချောင်ချိရေးစီမံချက်

သတင်း။ Kaytumadi Development Public Company Limited သည် စက်မှုဥယျာဉ်စီမံကိန်း လုပ်ငန်း လုပ်ကိုင်မည်ဖြစ်ပါသည်။

ရည်ရွယ်ချက်။ ဝန်ထမ်းများ လုပ်ငန်းခွင်သာယာရေး နှင့် သက်သာချောင်ချိရေးဆောင်ရွက်နိုင်ရန်။

လုပ်ဆောင်ချက်။ အောက်ပါအတိုင်းအပိုင်း(၂)ပိုင်းဖြင့် ဆောင်ရွက်သွားပါမည်။

(၁) လုပ်ငန်းခွင်သာယာရေး

(၂) ဝန်ထမ်းများသက်သာချောင်ချိရေး

၁။ လုပ်ငန်းခွင်သာယာရေး။ လုပ်ငန်းခွင်သာယာရေးရှိရန်အတွက် အောက်ပါအတိုင်း ဆောင်ရွက်သွားပါမည်။

(က) လုပ်ငန်းခွင် ပတ်ဝန်းကျင်သန့်ရှင်းရေး နှင့် လေကောင်းလေသန့်များရရှိရေးအတွက် ရေမြောင်းများ စနစ်တကျတူးဖော်၍ ရေစီးရေလာကောင်းစေရန် ဆောင်ရွက်သွားပါမည်။

(ခ) လုပ်ငန်းခွင်၏ ပတ်ဝန်းကျင်သန့်ရှင်းရေးအား ဝန်ထမ်းအားလုံး ဝိုင်းဝန်းစုပေါင်းဆောင်ရွက်ခြင်း၊ ဝန်ထမ်းတစ်ဦးချင်းစီဖြင့်လည်း စည်းကမ်းတကျ အမှိုက်ပုံးများသို့ စွန့်ပစ်ပစ္စည်းထည့်ရန် ဆောင်ရွက်သွားပါမည်။

(ဂ) ဝန်ထမ်းများ ထမင်းစားရန် နှင့် နားနေနိုင်ရန် ခုံများ၊ စားပွဲရှည်များ၊ အလုံအလောက် စီမံထားရှိပါမည်။

(ဃ) လုပ်ငန်းခွင်အတွင်း သန့်ရှင်းမှုရှိစေရေးအတွက် စနစ်တကျ အမှိုက်ပုံးများထားရှိပြီး၊ သန့်ရှင်းရေးဝန်ထမ်းများမှ အချိန်ပြည့်တာဝန်ထမ်းဆောင်စေပါမည်။

(င) လုပ်ငန်းခွင့် လေဝင်/လေထွက် ကောင်းမွန်ရေးအတွက် အစီအစဉ်များထားရှိဆောင်ရွက်သွားပါမည်။

(စ) ဝန်ထမ်းများ ကျန်းမာရေးဆိုင်ရာ ရေအိမ်သာများကျား/မခွဲ၍ အလုံအလောက် သတ်မှတ်ထားသည့်အတိုင်းထားပေးသွားရန် နှင့် သန့်ရှင်းမှုရှိစေရေးပိုးသတ်ဆေးများ စနစ်တကျပက်ဖျန်း၍ သန့်ရှင်းရေးကိုအမြဲဂရုပြုဆောင်ရွက်သွားပါမည်။

၂။ ဝန်ထမ်းများသက်သာချောင်ချိရေး။ အောက်ပါအတိုင်းဆောင်ရွက်သွားပါမည်။

(က) ဝန်ထမ်းများ အသွား/အပြန် ဖယ်ရီယာဉ် ကြို/ပို့ အခမဲ့စနစ်ဖြင့် ဆောင်ရွက်သွားပါမည်။

(ခ) ဝန်ထမ်းများအရေးပေါ် ကျန်းမာရေးအတွက် တတ်ကျွမ်းသောသူနာပြုဆရာမတစ်ဦး ခန့်ထားပြီး လိုအပ်သောဆေးဝါးအပြည့်အစုံ နှင့် ဆေးသေတ္တာထားရှိသွားပါမည်။

(ဂ) လုပ်ငန်းခွင်မတော်တဆထိခိုက်ဒဏ်ရာရရှိသော ဝန်ထမ်းများကိုလည်း ဒဏ်ရာကောင်းမွန်သည်အထိ ဆေးရုံ/ဆေးခန်းများသို့ သွားရောက်ကုသပေးစေပါမည်။

(ဃ) အချိန်ပိုဆင်းရသောနေ့များတွင် အချိန်ပိုကြေးအပြင် မုန့်ဖိုး ဝန်ထမ်းတစ်ဦးလျှင် ကျပ်- ၅၀၀/- စီထောက်ပံ့သွားပါမည်။

(င) ဝန်ထမ်းများ၏လစာများကို လုပ်သက်/စည်းကမ်းအပေါ် မူတည်ကာ တိုးမြှင့်ခံစားစေရန် ဆောင်ရွက်သွားပါမည်။

(စ) ဝန်ထမ်းများ သောက်သုံးရေကိုလည်း ရေသန့်ဗူးများဖြင့် သောက်သုံးနိုင်ရေးစီစဉ်ဆောင်ရွက်သွားပါမည်။

**အုပ်ချုပ်မှု**

၃။ လိုအပ်ချက်အပေါ် မူတည်၍ ဆင့်ကဲဆင့်ကဲအုပ်ချုပ်နိုင်ရန် MD ဦးဆောင်သော အုပ်ချုပ်ရေးဦးစီးအဖွဲ့ နှင့် ပညာရှင်၊ ဝန်ထမ်းအုပ်ချုပ်သူမန်နေဂျာများ နှင့် Supervisor, Leader စသည်ဖြင့် စနစ်တကျဖွဲ့စည်း၍ ဆောင်ရွက်သွားပါမည်။

**ဆက်သွယ်မှု**

၄။ ဝန်ထမ်းများအနေဖြင့် Leader, Supervisor စသည်ဖြင့် ဆင့်ကဲဆင့်ကဲသတင်းပို့စနစ်ဖြင့် ဆောင်ရွက်စေပြီး မန်နေဂျာများမှတဆင့် လိုအပ်သောအခြေအနေပေါ် မူတည်ကာ အထက်ဦးစီးအဖွဲ့သို့ တင်ပြဆောင်ရွက်သွားပါမည်။ အရေးပေါ် ကိစ္စရှိ၍ ခွင့်တိုင်ကြားမှု နှင့် အခြားကိစ္စအတွက် ရုံးဖုန်းနှင့် AGM နှင့် ဆက်သွယ်ဆောင်ရွက်နိုင်အောင် ဆောင်ရွက်ထားရှိပါမည်။ ဌာနဆိုင်ရာများနှင့် ဆက်သွယ်ဆောင်ရွက်နိုင်ရန် သက်ဆိုင်ရာများ၏ ဖုန်းနံပါတ်များစနစ်တကျပြုစု၍ လုံခြုံရေးရုံး၊ စီမံဌာနတို့၌ ကပ်ထားပေးပါမည်။

## Kaytumadi Development Public Company Limited

## မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်တားဆီးရေးစီမံချက်

**နိဒါန်း**

(၁) Kaytumadi Development Public Company Limited ၏ စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းတွင် မီးဘေးအန္တရာယ်ဖြစ်ပေါ်ခြင်းမရှိစေရန် နှင့် မီးဘေးအန္တရာယ်ကျရောက်ခဲ့လျှင်လည်း ချက်ချင်းငြိမ်းသတ်နိုင်ရန် လိုအပ်သောကြိုတင်ပြင်ဆင်မှု အဘက်ဘက်မှပြုလုပ်ထားနိုင်ရန်အတွက် ဤစီမံချက်ကို စနစ်တကျရေးဆွဲထားခြင်းဖြစ်ပါသည်။

**ရည်ရွယ်ချက်**

၂။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးစီမံချက်ကို အကောင်အထည်ဖော်လိုက်နာဆောင်ရွက်ခြင်းဖြင့် Kaytumadi Development Public Company Limited ၏ ဝန်ထမ်းများ၊ ကုမ္ပဏီပိုင်ပစ္စည်းများ ဆုံးရှုံးမှုမဖြစ်ပေါ်စေရေး နှင့် ပတ်ဝန်းကျင်ရှိစက်ရုံများ၊ အဆောက်အအုံများသို့ ကူးစက်ပြန့်နှံ့ခြင်းမဖြစ်စေရေး အတွက် ရည်ရွယ်ပါသည်။

**မီးလောင်မှုဖြစ်ပွားစေသောအကြောင်းအချက်များ**

၃။ အောက်ဖော်ပြပါ အဓိကအချက်များကြောင့် မီးလောင်မှုဖြစ်ပွားရခြင်းဖြစ်ပါသည်-

(က) မသမာသူများ၏ နည်းမျိုးစုံဖြင့်မီးရှို့ခြင်း

(ခ) လျှပ်စစ်ဓါတ်အားတပ်ဆင်မှု နှင့် သုံးစွဲမှုစနစ်မကျခြင်း

(ဂ) မီးသုံးစွဲမှု ပေါ့ဆခြင်း

(ဃ) အခြား (အဆောက်အအုံ၊ နေအိမ်၊ လယ်ကွင်း .... စသည်) တစ်နေရာမှမီးကူးစက်ခြင်း

**ဆောင်ရွက်ရန်နည်းလမ်းများ**

၄။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်တားဆီးရေးကို အောက်ပါအချက်များဖြင့် ဆောင်ရွက်မည်ဖြစ်ပြီး ထိုသို့ ဆောင်ရွက်ခြင်းဖြင့် မီးလောင်မှုဖြစ်ပွားစေသောအကြောင်းများကိုလည်း တားဆီးနိုင်မည်ဖြစ်သည်။

(က) မြို့နယ်မီးသတ်ဦးစီးဌာန၏ ကြီးကြပ်မှုဖြင့် ပညာပေးဟောပြောပွဲများ ပြုလုပ်ခြင်း၊ သင်တန်းပေးခြင်းများ စနစ်တကျပြုလုပ်ထားရန်။

(ခ) မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး နှင့် မီးငြိမ်းသတ်ရေးအဖွဲ့များဖွဲ့စည်းထားရန်။

(ဂ) သင့်လျော်သည့် ဝန်ထမ်းများအား မီးသတ်ဆေးဗူး၊ မီးသတ်ရေပုံး၊ မီးသတ်သဲပုံး၊ မီးကပ်၊ မီးချိတ်အသုံးပြုနည်းတို့ကို လက်တွေ့သင်တန်းပေးပြသထားရန်။ ၂-လတစ်ခါ မွမ်းမံသင်တန်းပေးရန်။

(ဃ) Kaytumadi Development Public Company Limited ကုမ္ပဏီပိုင်ပစ္စည်းများအားလုံး ကို ပထမဦးစားပေး၊ ဒုတိယဦးစားပေးစသည်ဖြင့် ဦးစားပေးအဆင့်သတ်မှတ်ပြီး မီးဘေး

အန္တရာယ်ဖြစ်ပေါ်လာပါက ရွှေ့ပြောင်းဖယ်ရှားရန်၊ မီးလောင်လွယ်သောပစ္စည်းများ ထားရှိရာ အနီးအနား၌ မီးခြစ်ခြင်းတားမြစ်ထားရန်၊ ဆေးလိပ်သောက်ရန်အလို့ငှာ (သို့) အခြားကိစ္စ အလို့ငှာမီးခြစ်သည်ကို တွေ့ရှိရပါက ထိုသူအား ပြင်းထန်စွာအရေးယူရန်။

(င) မီးဖို၊ ဆေးလိပ်တိုတို့မှ မီးကြွင်းမီးကျန်တို့ကို ငြိမ်းသတ်ပြီးမှ စနစ်တကျစွန့်ပစ်ရန်။

(စ) `မီးသတိပြု´၊ `ဆေးလိပ်မသောက်ရ´ စသည့် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး ဆိုင်းဘုတ်၊ နံရံကပ်ပိုစတာများကို လိုအပ်သည့်နေရာများတွင် မြင်သာသလိုချိတ်ဆွဲကပ်ထား ရန်။

(ဆ) ဆေးလိပ်သောက်ရန် နေရာသီးသန့်သတ်မှတ်ထားပြီး ထိုနေရာအနီးတွင် မီးလောင်လွယ် သည့် ပစ္စည်းများမထားရန်။

(ဇ) မီးသတ်ဆေးဗူးများ ကောင်း/မကောင်းကို အနည်းဆုံးဆယ့်ငါးရက်တစ်ကြိမ် စစ်ဆေးပြီး မှတ်တမ်းတင်ရန်၊ မီးသတ်ဆေးဗူးများအသုံးပြုနည်းကို မြန်မာဘာသာဖြင့် မီးသတ်ဗူးများ အနီးတွင် ချိတ်ဆွဲထားရန်၊ မီးသတ်ဆေးဗူးများရှိသည့်နေရာများကို မြားအညွှန်းပြသထားရန်။

(ဈ) လျှပ်စစ်ပစ္စည်းများ နှင့် မီးကြိုးများကိုစနစ်တကျအသုံးပြုရန် နှင့် မီးကြိုးများပေါက်ပြဲမှု ရှိ၊ မရှိ တာဝန်ရှိသူများမှ နေ့စဉ်စစ်ဆေးရန်။

(ည) မီးဘေးအန္တရာယ်ကြုံတွေ့သည့်အခါ အလွယ်တကူပိတ်နိုင်ရန် လျှပ်စစ် MAIN SWITCH နှင့် FUSE များရှေ့တွင်ပိတ်ဆို့နေသည့် ပစ္စည်းများဖယ်ရှားထားရန်။

(ဋ) မီးခလုတ်များ၊ မီးကြိုးများအနီးတွင် ပိုးမျှင်၊ ပင့်ကူမျှင် စသည်တို့အပါအဝင် မီးလောင်နိုင်သည့် ပစ္စည်းများကိုရှင်းလင်းထားရန်၊ မလှမ်းမကမ်းတွင် လျှပ်စစ် နှင့် ဒီဇယ်များကို ငြိမ်းသတ်နိုင် သည့် မီးသတ်ဆေးဗူးများထားရှိရန်။

(ဌ) အလုပ်ပြီးသည့်အခါ မီးခလုတ်များကိုပိတ်ထားခဲ့ရန်။

(ဍ) မီးဘေးအန္တရာယ်အတွက် ဆက်သွယ်မှုပြုနိုင်ရန် အောက်ပါဖုန်းနံပါတ်များကို အများမြင်သာ သည့်နေရာတွင် ရေးသားထားရန်-

၁။ မီးသတ်ဦးစီးဌာန ၀၅၂-၂၁၂၇၂

၂။ ဆေးရုံ (ပဲခူးတိုင်း) ၀၅၂-၂၄၀၀၂

၃။ ပြည်သူ့ရဲတပ်ဖွဲ့ (ပဲခူးတိုင်း) ၀၅၂-၂၁၁၂၂

(ပ) အောက်ပါမီးသတ်ပစ္စည်းများကို မြင်သာသည့်နေရာ၊ ယူရန်လွယ်ကူသည့်နေရာတွင် ထားရှိ ရန်-

(၁) မီးသတ်ဗူး ( ၂၀ )လုံး

(၂) သဲပုံး ( ၂၀ )ပုံး

(၃) မီးသတ်ရေဆွဲပုံး ( ၂၀ )ပုံး

(၄) မီးကပ် ( ၃၀ )ခု

(၅) မီးချိတ် ( ၃၅ )ခု

(၆) ညအချိန်အသုံးပြုရန် လက်နှိပ်ဓါတ်မီး ( ၂၅ )ခု

(၇) ပေါက်ဆိန် ( ၁၀ )ခု

၅။ မီးဘေးအန္တရာယ်သည် ရုံးချိန်အတွင်းဖြစ်ပေါ်ပါကအထွေထွေမန်နေဂျာ၊ လုံခြုံရေးမှူး၊ စီမံရေးရုံးသို့ သတင်းပို့ရန်၊ စီမံမန်နေဂျာ၊ လုံခြုံရေးမှူး၊ စီမံရေးရုံးမှလည်းနီးစပ်ရာမီးသတ်စခန်းများ၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်းများ နှင့် အုပ်ချုပ်မှုဒါရိုက်တာ (Kaytumadi Development Public Company Limited) အား အလျင်အမြန်အကြောင်းကြားရန်၊ Kaytumadi Development Public Company Limited တွင် ဖွဲ့စည်းထားသော မီးငြိမ်းသတ်ရေးအဖွဲ့များကလည်း မိမိအဖွဲ့အလိုက် စနစ်တကျဆောင်ရွက်ကြရန်။

၆။ မီးဘေးအန္တရာယ်သည် ရုံးပြင်ပတွင်ဖြစ်ပေါ်ပါက မီးလုန့်သံချောင်းခေါက်ပြီး အထွေထွေမန်နေဂျာ၊ စီမံမန်နေဂျာ၊ တာဝန်မှူး၊ လုံခြုံရေးမှူးတို့ကို သတင်းပို့အကြောင်းကြားရန်၊ စီမံမန်နေဂျာ၊ လုံခြုံရေးမှူး၊ အဆောင်နေဝန်ထမ်းများက နီးစပ်ရာမီးသတ်စခန်းများ နှင့် အုပ်ချုပ်မှုဒါရိုက်တာအား အကြောင်းကြားရန်၊ လောလောဆယ်ကျရောက်နေသည့် မီးဘေးအန္တရာယ်အား တာဝန်ကျလုံခြုံရေးများ၊ အဆောင်နေဝန်ထမ်းများက ဟန့်တားကာကွယ်ထားရန်။

**<u>အဖွဲ့များဖွဲ့စည်းခြင်း</u>**

၇။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် အုပ်ချုပ်မှုဒါရိုက်တာ၊ အထွေထွေမန်နေဂျာတို့၏ လမ်းညွှန်မှုဖြင့် စီမံမန်နေဂျာမှ ကြီးကြပ်မီးငြိမ်းသတ်ရေးအဖွဲ့၊ လုံခြုံရေးအဖွဲ့၊ ကယ်ဆယ်ရေး နှင့် ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့တို့ကို ပူးတွဲအမည်စာရင်းအတိုင်းဖွဲ့စည်းထားရှိရန်။

၈။ မီးငြိမ်းသတ်ရေးအဖွဲ့၏ တာဝန်ဝတ္တရားများ

(က) မီးသတ်ဗူး၊ မီးကပ်၊ မီးချိတ်၊ သဲပုံး၊ လျှပ်စစ်မီးခလုတ်၊ ပင်မမီးခလုတ် ရှိသည့်နေရာများကိုသိရှိအောင် ကြိုတင်လေ့လာထားရမည်။

(ခ) မီးသတ်ဗူး၊ မီးကပ်၊ မီးချိတ်၊ သဲပုံးတို့ကိုလိုအပ်လျှင် အသုံးပြုတတ်အောင် လေ့ကျင့်ထားရမည်။

(ဂ) မီးလောင်သည့်နေရာနှင့် အနီးစပ်ဆုံးတွင်ရှိသည့် မီးငြိမ်းသတ်ရေးအဖွဲ့ဝင်များက မီးတောက်ကြီး မလာမီ အမြန်ဆုံးတက်ညီလက်ညီစနစ်တကျ မီးငြိမ်းသတ်ရမည်။ ကျန်မီးငြိမ်းသတ်ရေးအဖွဲ့ဝင် များက အခြားနေရာများရှိမီးသတ်ဆေးဗူးများ၊ မီးချိတ်၊ သဲပုံးများသယ်ယူလာပြီး မီးငြိမ်းသတ်ရမည်။

(ဃ) မီးဘေးအန္တရာယ်ကျရောက်ပါက လျှပ်စစ် FUSE၊ ပင်မခလုတ်များကိုချက်ချင်းပိတ်ရမည်။

၉။ **<u>လုံခြုံရေးအဖွဲ့၏ တာဝန်ဝတ္တရားများ</u>**

(က) မီးဘေးအန္တရာယ် ကျရောက်နေလျှင် ဝန်ထမ်းများ ဘေးအန္တရာယ်ကင်းရှင်းရေး၊ လုပ်ငန်းပိုင်ပစ္စည်း များ လုံခြုံမှုရှိရေးတို့ကို ဆောင်ရွက်ရန်။

(ခ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် ကုမ္ပဏီပိုင်ငွေများ၊ ကုမ္ပဏီပိုင်အဖိုးတန်ပစ္စည်းများ၊ အခြား ကုမ္ပဏီပိုင်စာရွက်စာတမ်းပစ္စည်းများကို ဦးစားပေးအဆင့်အလိုက် မီးလောင်ကျွမ်းမှုမရှိစေရန် တစ်နေရာသို့ ရွှေ့ပြောင်းပြီးပါက လုံခြုံရေးအဖွဲ့ဝင်များက လုံခြုံမှုကိုတာဝန်ယူရန်။

(ဂ) မီးဘေးအန္တရာယ်ကျရောက်နေစဉ် လုံခြုံရေးတပ်ဖွဲ့ဝင်များ ရောက်ရှိလာသည့်အခါ ပူးပေါင်းအကူအညီပေးရန်။

(ဃ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် ကုမ္ပဏီရုံးခန်းအတွင်းသို့ တာဝန်ရှိသူများ၊ တပ်ဖွဲ့ဝင်များကိုသာ ဝင်ခွင့်ပြုရန်၊ အခြားမည်သူ့ကိုမျှ ဝင်ခွင့်မပြုရန်၊ မလိုလျှင် တံခါးမကြီးအားသော့ခတ်လိုက်ရန်။

(င) မီးဘေးအန္တရာယ်ကျော်လွန်ပြီးနောက် ကုမ္ပဏီပိုင်ငွေများ၊ ကုမ္ပဏီပိုင်အဖိုးတန်ပစ္စည်းများ၊ အခြားစာရွက်စာတမ်း၊ ပစ္စည်းများကို သက်ဆိုင်သူများထံ စနစ်တကျပြန်လည်အပ်နှံရမည်။

၁၀။ <u>ကယ်ဆယ်ရေးနှင့် ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့</u>

(က) ကုမ္ပဏီပိုင်ငွေကြေးများ၊ အဖိုးတန်ပစ္စည်းများ၊ အခြားအရေးကြီးစာရွက်စာတမ်း၊ ပစ္စည်းများကို ဦးစားပေးအဆင့်အလိုက် မီးဘေးအန္တရာယ်ကင်းရှင်းပြီး လုံခြုံမှုရှိသည့်နေရာသို့ အလျင်အမြန်ရွှေ့ပြောင်းပေးရန်။ လိုအပ်ပါက စက်ရုံမော်တော်ယာဉ်များကို တာဝန်ရှိသူထံတောင်းဆိုလျက် ပစ္စည်းများရွှေ့ပြောင်းရမည်။

(ခ) သယ်ယူပြောင်းရွှေ့လာသောငွေကြေးပစ္စည်းများကို လုံခြုံရေးအဖွဲ့ဝင်များနှင့် ညှိနှိုင်းပြီးလုံခြုံသည့်နေရာအားသတ်မှတ်ရန်။

(ဂ) မီးဘေးအန္တရာယ်လွတ်ကင်းရာသို့ သယ်ယူရွှေ့ပြောင်းရာတွင် ငွေကြေးပစ္စည်းများကို ဆုံးရှုံးပျက်စီးမှုမရှိအောင် အလေအလွင့်မရှိအောင် အထူးဂရုစိုက်ရမည်။

(ဃ) မီးဘေးအန္တရာယ်ကျရောက်နေစဉ်အတွင်း ဒဏ်ရာအနာတရဖြစ်သူများအား လိုအပ်သည့်နေရာသို့ ပို့ဆောင်ရွှေ့ပြောင်းပေးရန်။ ကုမ္ပဏီပိုင်မော်တော်ယာဉ် ယာဉ်မောင်းများနှင့် ညှိနှိုင်းဆောင်ရွက်ရန်။

(င) ဝန်ထမ်းများ ဒဏ်ရာအနာတရမဖြစ်စေရန် နှင့် ဒဏ်ရာရရှိပါက ကုသမှုပြုနိုင်ရန် ဆေးရုံဆရာဝန်၊ သူနာပြုတို့နှင့် ညှိနှိုင်းဆောင်ရွက်ရန်။

(စ) မီးဘေးအန္တရာယ်ကျရောက်နေချိန်တွင် နေထိုင်မကောင်းသူ၊ မသန်စွမ်းသူများအား မီးဘေးအန္တရာယ်မှ လွတ်မြောက်စေရန် ကူညီဆောင်ရွက်ပေးရန်။

<u>စီမံခန့်ခွဲမှု</u>

မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးနှင့် မီးဘေးအန္တရာယ် ကျရောက်နေစဉ် မီးငြိမ်းသတ်ရေးအဖွဲ့၊ လုံခြုံရေးအဖွဲ့၊ ကယ်ဆယ်ရေး နှင့် ပစ္စည်းသယ်ယူရွှေ့ပြောင်းရေးအဖွဲ့များသည် အုပ်ချုပ်မှုဒါရိုက်တာ၊ အထွေထွေမန်နေဂျာ၊ စီမံမန်နေဂျာ၊ ဌာနကြီးမှူးများ၊ လုံခြုံရေးမှူး၊ စီမံရေးလက်ထောက်များ၏ စီမံခန့်ခွဲမှုအတိုင်းဆောင်ရွက်ရန်။

<u>နိဂုံး</u>

မီးဘေးအန္တရာယ်ကြောင့် လူသားများ၊ ငွေကြေးများ၊ ပစ္စည်းများစသည်တို့ ဆုံးရှုံးပျက်စီးနိုင်သည်ဖြစ်ရာ အထက်ပါစီမံချက်ကို လိုက်နာဆောင်ရွက်ခြင်းဖြင့် ဆုံးရှုံးပျက်စီးမှုလျော့နည်းပပျောက်နိုင်မည် ဖြစ်ပါသည်။

# ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်က အကောင်အထည်ဖော်ဆောင်ရွက်မည့် စီမံကိန်း (၂၃၅.၅၄ ဧက)၏ မြေယာဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းဆိုင်ရာ ပတ်ဝန်းကျင်စီမံခန့်ခွဲရေးအစီအစဉ်

(Environmental Management Plan-EMP)

## နိဒါန်း

ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အကောင်အထည်ဖော်ဆောင်ရွက်မည့် ကေတုမတီမြေယာစီမံကိန်းသည် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု(၂)၊ ကွင်းအမှတ်(၅၉၉-ဂ၊ ၅၉၂-က၊ ၅၈၇၊ ၅၈၆၊ ၆၀၀-ခ၊ ၅၉၉-ဂ) တို့တွင် တည်ရှိသည်။ မြေဧရိယာအကျယ်အဝန်း စုစုပေါင်းမှာ (၂၃၅.၅၄)ဧကဖြစ်ပါသည်။

သို့ပါ၍ မြေယာလုပ်ငန်းများအကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန်အတွက် ပထမအဆင့်အနေဖြင့် မြေယာစည်ပင်ရေးလုပ်ငန်းများနှင့် လမ်းများ ၊ ရေမြောင်းများ၊ စိုက်ပျိုးရေး၊ ဆက်သွယ်ရေးလုပ်ငန်းများ၊ တံတားများနှင့် လိုအပ်သည့် အခြေခံအဆောက်အအုံများ တည်ဆောက်နိုင်ရန်အတွက် ခွင့်ပြုချက်ရရှိရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြရာတွင် ပတ်ဝန်းကျင်ဆိုင်ရာထိန်းသိမ်းမှုအဆင့်ဆင့် စီမံဆောင်ရွက်ချက်ကိုပါ တစ်ပါတည်းတင်ပြခြင်းဖြစ်ပါသည်။

## စီမံကိန်း၏ရည်ရွယ်ချက်

ဤစီမံကိန်းကို အဆင့်(၂)ဆင့်ဖြင့် ဆောင်ရွက်သွားမည်ဖြစ်ရာ ပထမအဆင့်အတွက် ကြာမြင့်မည့်ကာလကို (၂)နှစ်မှ(၃)နှစ်အထိ ခန့်မှန်းထားပြီးအဆိုပါကာလအတွင်း မြေယာစည်ပင်မှုလုပ်ငန်းများကို ဆောင်ရွက်ပါမည်။ အဆိုပါမြေယာစည်ပင်ရေးလုပ်ငန်းများမှာ ဒုတိယအဆင့်တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ဆောင်ရွက်မည့်အိမ်ယာစီမံကိန်းလုပ်ငန်းများအတွက် ကြိုတင်ဆောင်ရွက်သည့် အခြေခံမြေယာစည်ပင်ရေးလုပ်ငန်းများဖြစ်ပါသည်။

အဆိုပါလုပ်ငန်းများကို ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှုမရှိစေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနက ပြင်ဆင်ရေးဆွဲပြီး ၂၀၁၂ခုနှစ် ၊ မတ်လတွင် ပြဌာန်းခဲ့သည့်

အဆိုပါလုပ်ငန်းများကို ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှုမရှိစေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနက ပြင်ဆင်ရေးဆွဲပြီး ၂၀၁၂ခုနှစ် ၊ မတ်လတွင် ပြဋ္ဌာန်းခဲ့သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေပါပြဋ္ဌာန်းချက်များ၊ အစိုးရက ၂၀၁၃ခုနှစ်ဇူလိုင်လတွင် အတည်ပြုထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နည်းဥပဒေများနှင့်အခါအားလျော်စွာ ထုတ်ပြန်သည့်လုပ်ထုံးလုပ်နည်းများ၊ ကြော်ညာချက်များကို တစ်သွေမတိမ်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

## စီမံကိန်းကာလ

ယခုအဓိကဆောင်ရွက်မည့် မြေယာစည်ပင်ရေးလုပ်ငန်းမှာ (၂)နှစ်မှ (၃)နှစ်အတွင်းအပြီးအစီး ဆောင်ရွက်ရန် ရည်ရွယ်ထားပါသည်။ ဧရိယာအနေအထားကျယ်ဝန်းသဖြင့် မျှော်မှန်းထားသည့်ကာလထက်ပို နိုင်ဖွယ်ရာရှိသည်ဟုလည်း ခန့်မှန်းပါသည်။ သို့ရာတွင် ရည်ရွယ်ထားသည့်ကုန်ကျစရိတ် ခန့်မှန်းခြေအတွင်းရှိရေးအတွက် သတ်မှတ်ထားသည့် (၂)နှစ်နှင့်(၃)နှစ်အကြားဖြစ်အောင် ကြိုးစားဆောင်ရွက်ပါမည်။ ယင်းသို့ဆောင်ရွက်နိုင်ရေးအတွက် မြေယာစည်ပင်ရေးလုပ်ငန်း၏ တိုးတက်မှုအခြေအနေကိုအစဉ်တစိုက်စောင့်ကြည့် လေ့လာပြီးလိုအပ်သော လူအင်အား၊ပစ္စည်းအင်အားတို့ကို ဖြည့်တင်းဆောင်ရွက်ပါမည်။

## စီမံကိန်း၏တည်နေရာနှင့်ဧရိယာ

ဤစီမံကိန်းကို (၂၃၅.၅၄)ဧက အကျယ်ပေါ်တွင် ဆောင်ရွက်သွားမည်ဖြစ်ပြီး ဆောင်ရွက်သွားမည့် စီမံကိန်းဧရိယာ၏အရှေ့တွင် ရန်ကုန်-မန္တလေးအမြန်လမ်းရှိပြီး၊ အနောက်တွင်ပဲခူးရိုးမတောရှိပါသည်။ တောင်ဘက်တွင် ဇရပ်ကွင်းလမ်းရှိပြီး မြောက်ဘက်တွင်ပိတောက်ကုန်းလမ်း ရှိပါသည်။

မြေယာစည်ပင်ရေးလုပ်ငန်း၏ လေးဘက်လေးတန်ရှိဒေသများမှာ (စိုက်ခင်းများ၊လူနေဧရိယာများ ဖြစ်သဖြင့် လက်ရှိမြေယာစည်ပင်ရေးလုပ်ငန်းများ ဆောင်ရွက်ပြီးစီးပြီးနောက်အိမ်ယာစီမံကိန်းများ စတင်ဆောင်ရွက်သည့်အခါတွင် လက်ရှိတည်ရှိနေသော လူနေဧရိယာများဖွံ့ဖြိုးတိုးတက်ရေးကို အလေးအနက်ထည့်သွင်းစဉ်းစားသွားမည်ဖြစ်သကဲ့သို့ စိုက်ပျိုးရေးဧရိယာများ၏ ထုတ်လုပ်မှုကိုလည်းထိခိုက်မှုမရှိစေရန် ထည့်သွင်းစီမံဆောင်ရွက်ပါမည်။

စီမံကိန်းဧရိယာ၏အနီးတွင် ရန်ကုန်-နေပြည်တော်အမြန်လမ်းမ နှင့် ရန်ကုန်-မန္တလေးမူလလမ်းဟောင်းတို့ရှိနေရာ မြေယာစည်ပင်ရေးလုပ်ငန်းများတွင် ပါဝင်သည့်လမ်းများ၊တံတားများဖောက်လုပ် တည်ဆောက်သည့်အခါတွင် လူများအသွားအလာလွယ်ကူသည့် ကွန်ယက်ဖြစ်လာစေရေးကို ဦးတည်ဖောက်လုပ်ပါမည်။

## ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ် ( Environmental Management Plan)

ကမ္ဘာ့ဘဏ်မှထုတ်ပြန်ထားသည့် ပတ်ဝန်းကျင်စီမံခန့်ခွဲရေးအစီအစဉ်ဆိုင်ရာမူဝါဒများ (OP 4.01 Annex C-Environmental Management Plan, World Bank) နှင့်အညီ ယခုတင်ပြသည့် မြေယာစည်ပင်ရေးလုပ်ငန်းများ၏ ပတ်ဝန်းကျင်အားထိခိုက်ဖွယ်ရာရှိသော၊ လူမှုရေးအရထိခိုက်ဖွယ်ရာရှိသောဆိုးကျိုးများ (Negative Environmental and Social Impacts)ကို ဖယ်ရှားရှင်းလင်းရေး၊ တုံ့ပြန်ဆောင်ရွက်ရေးနှင့် လက်ခံနိုင်သည့်အဆင့်အထိ လျှော့ချရေးတို့အတွက် ဆိုးကျိုးများသက်သာအောင် ဆောင်ရွက်မည့်လုပ်ငန်းများ (Mitigation Measures)၊ အဆိုပါထိခိုက်မှုများကို စောင့်ကြည့်လေ့လာမည့်အစီအမံများ(Monitoring Measures)နှင့် ဖွဲ့စည်းရေးဆိုင်ရာအစီအမံများ(Institutional Measures)တို့ပါရှိသည့် အောက်ဖော်ပြပါ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်(Environmental Management Plan)ကို တင်ပြအပ်ပါသည်။

## စီမံကိန်း၏အစိတ်အပိုင်းများ

မြေယာစည်ပင်ရေးလုပ်ငန်းများတွင် အောက်ပါအစိတ်အပိုင်းများပါရှိပါမည်။

(၁) မြေပြုပြင်ခြင်းလုပ်ငန်း

(၂) လမ်းဖောက်လုပ်ခြင်းလုပ်ငန်း

(၃) ရေစီးရေလာကောင်းမွန်အောင်ဆောင်ရွက်ရေးလုပ်ငန်း

(၄) ရေဆိုးသန့်စင်မှုလုပ်ငန်း

(၅) လျှပ်စစ်ဓာတ်အားရရှိရေးလုပ်ငန်း

(၆) ဆက်သွယ်ရေးလုပ်ငန်းနှင့်

(၇) စိမ်းလန်းစိုပြေရေးလုပ်ငန်း

မြေယာစည်ပင်ရေးလုပ်ငန်းတွင် အပိုင်း(၇)ပိုင်းပါရှိသော်လည်း လုပ်ငန်း၏သဘောသဘာဝအလျောက် တာဝန်ခွဲ၍ ဆောင်ရွက်မည်ဖြစ်ပြီး လုပ်ငန်းအလိုက်လူအင်အားသုံးစွဲမှု၊ စက်ယန္တယားသုံးစွဲမှုတို့တွင်ကွာခြားမှုပါရှိမည်။ သို့ရာတွင် တစ်ပြိုင်တည်းဆောင်ရွက်၍ရမည့်လုပ်ငန်းများကို တစ်ပြိုင်တည်းဆောင်ရွက်ပါမည်။

ပေးစတင်ဆောင်ရွက်မည်ဖြစ်ပြီး ပြုပြင်ရန်အထူးတလည်မလိုအပ်သောဒေသများကို အချိန်နှင့်တစ်ပြေးညီ ဆောင်ရွက်သွားပါမည်။

ယခုစီမံကိန်းဧရိယာတစ်ခုလုံးတွင် စီမံကိန်း၏ဒုတိယအဆင့်တွင် အိမ်ယာစီမံကိန်းလုပ်ငန်းများ ဆောင်ရွက်သွားမည်ဖြစ်သဖြင့်စီမံချက်အရ အဆိုပါဧရိယာတစ်ခုလုံးကို လူနေဧရိယာ၊ စီးပွားရေးဧရိယာ၊ အုပ်ချုပ်ရေးဆိုင်ရာဧရိယာ၊ စက်မှုလက်မှုဧရိယာ၊ စိမ်းလန်းစိုပြေရေးဧရိယာစသဖြင့် ခွဲခြားသတ်မှတ်ထားပြီးဖြစ်ရာ မြေယာပြုပြင်ရေးကိုဆောင်ရွက်ရာတွင် သတ်မှတ်ချက်နှင့်အညီ ပြုပြင်ဆောင်ရွက်မည်ဖြစ်ပါသည်။

လမ်းများဖောက်လုပ်ရာတွင် စီမံကိန်းဧရိယာကိုဖြတ်၍ ပေ ၁၀၀ အကျယ်ရှိသော ပင်မလမ်းမကြီးရှိမည်ဖြစ်ပြီး အဆိုပါလမ်းမကြီးသို့ဆက်စပ်နေသည့် ပေ ၆၀ အကျယ် အဓိကလမ်းများ ရှိမည်ဖြစ်ပါသည်။ ပင်မလမ်းမကြီးသည် စီမံကိန်းဧရိယာ မြောက်ဘက်ရှိ ပိတောက်ကုန်းလမ်းမှတစ်ဆင့် ရန်ကုန်-မန္တလေးအမြန်လမ်းသို့ရောက်ရှိပါမည်။

ရေစီးရေလာကောင်းမွန်အောင်ဆောင်ရွက်ရေးမှာ လမ်းဖောက်လုပ်ခြင်းလုပ်ငန်းနှင့် ဆက်စပ်လျက်ရှိပြီးဖောက်လုပ်ထားသော လမ်းများတစ်လျှောက် ရေစီးမှန်ကန်ရေး၊ရေမဝင်ရေး ရည်ရွယ်ချက်ဖြင့် ရေမြောင်းများကို ဖောက်လုပ်သွားပါမည်။ တစ်ပြိုင်တည်းတွင် အိမ်ယာစီမံကိန်းများစတင်သည့် စီမံကိန်းဒုတိယအဆင့်တွင် လူနေဧရိယာ၊ စီးပွားရေးဧရိယာနှင့် စက်မှုဧရိယာမှထွက်ရှိမည့်ရေဆိုးများကို ထိန်းသိမ်းသည့်ရေကန်များ၊ ရေဆိုးသန့်စင်သည့် Facilities များကို တစ်ပါတည်းထည့်သွင်းတည်ဆောက်ပါမည်။

ယခုတင်ပြသော ပတ်ဝန်းကျင်စီမံခန့်ခွဲရေးအစီအစဉ်တွင် အောက်ပါကိစ္စရပ်များကို ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၁) လေထုညစ်ညမ်းမှုမရှိစေရန်ထိန်းသိမ်းခြင်း

(၂) ရေထုညစ်ညမ်းမှုမရှိစေရန်ထိန်းသိမ်းခြင်း

(၃) စွန့်ပစ်ပစ္စည်းများနှင့် စပ်လျဉ်း၍စီမံထားရှိခြင်း

(၄) ပတ်ဝန်းကျင်ဆူညံမှုနှင့် တုန်ခါမှုမရှိစေရန်ဆောင်ရွက်ခြင်း

<u>လေထုညစ်ညမ်းမှုမရှိစေရန်ထိန်းသိမ်းခြင်း</u>

မြေယာပြုပြင်ရေးလုပ်ငန်းများကိုလုပ်ကိုင်ရာတွင် စက်ယန္တယားများဖြင့်ဆောင်ရွက်မည်ဖြစ်ရာ အဆိုပါ လုပ်ငန်းမှထွက်ရှိသော ဖုန်မှုန့်များ၊ သဲမှုန့်များသည် ပတ်ဝန်းကျင်ရှိ လေထုကိုညစ်ညမ်းစေမှု အနည်းငယ်ဖြစ်နိုင်ပါသည်။ သို့ရာတွင် မြေယာပြုပြင်ရေးပြုလုပ်သောနေရာဒေသသည် လွင်ပြင်ဖြစ်သဖြင့်လေတိုက်ခတ်မှုကြောင့် လေထုညစ်ညမ်းမှုကို ယာယီသာဖြစ်စေနိုင်ပါသည်။

ထို့အပြင် လုပ်ငန်းဆောင်ရွက်သည့်နေရာဒေသသည် လက်ရှိလူနေဧရိယာများနှင့်ကွာလှမ်းသဖြင့် မြေယာပြုပြင်ရေးလုပ်ငန်းများမှ ထွက်ပေါ်လာသော ဖုန်မှုန့်၊သဲမှုန့်များသည် လူနေဧရိယာအထိရောက်ရှိ ထိခိုက်နိုင်မှု နည်းပါးမည်ဖြစ်ပါသည်။

မြေယာပြုပြင်ရေးနှင့် လမ်းဖောက်လုပ်ရေးလုပ်ငန်းများတွင် စက်ယန္တယားကြီးများ၊ယာဉ်များကို သုံးစွဲမည်ဖြစ်ရာ လုပ်ငန်းများဆောင်ရွက်နေစဉ်တွင် ထွက်ပေါ်လာသည့် အသံဗလံများ(Noisy Pollutions) ရှိနိုင်သလို အဆိုပါစက်ယန္တယားကြီးများ၊ယာဉ်များမှထွက်ပေါ်လာမည့် ကာဗွန်ဒိုင်အောက်ဆိုက်ဓာတ်ငွေ့နှင့် လောင်စာဆီအနံ့တို့လည်းရှိနိုင်ပါသည်။သို့ရာတွင် လုပ်ငန်းဆောင်ရွက်သည့်ဧရိယာမှာ ကျယ်ပြန့်သဖြင့် ယင်းဧရိယာမှလေထုညစ်ညမ်းမှု၊ ဆူညံမှုတို့သည် ပတ်ဝန်းကျင်ကိုထိခိုက်နိုင်သော အဆင့်အထိရောက်ရှိရန်မရှိဘဲ စီမံကိန်းကို အကောင်အထည်ဖော်သူများအနေနှင့် သက်ဆိုင်ရာစက်မှုကျွမ်းကျင်သူများကို ညွှန်ကြား၍ စက်ယန္တယားကြီးများ၊ မော်တော်ယာဉ်များကိုစနစ်တကျစစ်ဆေးခြင်း၊ ထိန်းသိမ်းခြင်းများကို ပုံမှန်ပြုလုပ်သွား မည်ဖြစ်သလို အသံထိန်းသည့်ကိရိယာများ(nois suppressers or mufflers) တပ်ဆင်ခြင်းဖြင့်လည်းကောင်း၊ လမ်းဖောက်လုပ်ရာမှ ထွက်ပေါ်လာသော ဖုန်မှုန့်၊ သဲမှုန့်များကို လျှော့ကျစေရန် မခင်းရသေးသောလမ်းများကို ရေဖြန်းခြင်းဖြင့်လည်းကောင်း၊ လမ်းဖောက်လုပ်ခြင်းမှထွက်ပေါ်လာသည့် အမှိုက်သရိုက်များကို (Construction debris) စနစ်တကျ စုစည်းသိုလှောင်ထားပြီးနောက် အလျင်အမြန်ဖယ်ရှားခြင်းတို့ဖြင့် ဆောင်ရွက်သွားပါမည်။

အထက်ဖော်ပြပါ ဆောင်ရွက်ချက်များကို ပုံမှန်ကြီးကြပ်မည့်အဖွဲ့တစ်ဖွဲ့ (Unit)ကိုဖွဲ့စည်းပြီး လုပ်ငန်းနေရာအလိုက် (work site) တာဝန်ယူစေပါမည်။ လုပ်ငန်းဖုန်အကျယ်အဝန်းကိုလိုက်၍ လိုအပ်သော ဝန်ထမ်းဦးရေကို ခန့်အပ်တာဝန်ပေးအပ်ပါမည်။

အဆိုပါအဖွဲ့၏ တာဝန်များတွင် အထက်ဖော်ပြပါကြီးကြပ်သည့်လုပ်ငန်းအပြင်စီမံကိန်း၏ လေထုအပေါ် ညစ်ညမ်းစေမှုအခြေအနေ၊ အသံဗလံများ၏ ဆူညံမှုတို့သည် အနီးရှိလူနေဒေသများသို့ မည်သို့ထိခိုက်မှုရှိနေသည်ကို သက်ဆိုင်ရာဒေသအာဏာပိုင်များမှတစ်ဆင့် ပုံမှန်မေးမြန်းစုံစမ်းလေ့လာပြီး သက်ဆိုင်ရာလူထု၏ သဘောထားအမြင်အပေါ်အခြေပြုကာ လိုအပ်သည်များကိုထပ်မံဆောင်ရွက်ပေးပါမည်။ အဆိုပါလေ့လာစုံစမ်းမှုများမှ ရရှိသည့်သတင်းအချက်အလက်များကို စီမံကိန်းဒေသတွင်းရှိ လုပ်ငန်းနေရာအားလုံးသို့အသိ ပေးခြင်း၊ ဖလှယ်ခြင်းများကိုဆောင်ရွက်ပါမည်။ လေထုညစ်ညမ်းမှုကို အဓိကဖြစ်စေနိုင်သည့်မီးခိုး၊ မီးငွေ့များမဖြစ်

ပေါ်စေရေးအတွက် မြေယာပြုပြင်ရေးလုပ်ငန်းများတွင် ရှိနေသောသစ်တောများ၊ သစ်ပင်များမီးရှို့ရှင်းလင်းခြင်းကို လုံး၀(လုံး၀)မပြုလုပ်ရန် တားမြစ်ထားပါသည်။

ရေထုညစ်ညမ်းမှုမရှိစေရန်ထိန်းသိမ်းခြင်း

ရေထုညစ်ညမ်းမှုမရှိစေရေးအတွက် ပထမဦးစွာစီမံကိန်းဧရိယာအတွင်းရှိ ရေတွင်း၊ ရေကန်၊ မြစ်၊ ချောင်း၊ အင်း၊ အိုင်များ တည်ရှိရာဒေသများကို သေချာစွာသတ်မှတ်ထားပြီးနောက်စီမံကိန်းမှ ထွက်ရှိလာနိုင်သည့် စွန့်ပစ်ရေများ (waste water) ၊ စက်ယန္တယားများ၊ ယာဉ်များမှထွက်ရှိလာနိုင်သည့် စွန့်ပစ်ဆီများ(oil wastes) ကိုအဆိုပါရေတွင်းရေကန်၊ မြစ်၊ ချောင်း၊ အင်းအိုင်များသို့ မရောက်ရှိစေရန် စနစ်တကျ ကိုင်တွယ်ထိန်းသိမ်းခြင်း (proper handling and storage) စက်ဆီချောဆီများသိုလှောင်ခြင်းကို တင်းတင်းကျပ်ကျပ်စီမံဆောင်ရွက်ခြင်း၊ အဆိုပါစက်ဆီချောဆီများ ယိုဖိတ်စီးဆင်းမှုများ မဖြစ်အောင်စီမံခြင်းများကို ပြုလုပ်ပါမည်။

စီမံကိန်း၏ လက်ရှိလုပ်ငန်းသည် မြေပြုပြင်ခြင်း၊ လမ်းဖောက်လုပ်ခြင်း၊ ရေစီးရေလာကောင်းစေရန် ရေမြောင်းများတူးဖော်ခြင်းဖြစ်ရာ စွန့်ပစ်ရေပမာဏမှာ စက်ရုံအလုပ်ရုံများရှိသော နေရာဒေသများကဲ့သို့မရှိနိုင်ပါ။ အနည်းငယ်သာရှိမည်ဖြစ်ပါသည်။

စက်မှုဝန်ကြီးဌာနက ရေဆိုးအရည်အသွေးကို ထုတ်ပြန်ထားပြီးဖြစ်သည်ဟုသိရပါသည်။ သက်ဆိုင်ရာဝန်ကြီးဌာန၏ အကူအညီဖြင့် စီမံကိန်းမှ စွန့်ပစ်ရေများအတွက် အဆိုပါစံနှုန်းနှင့်အညီလိုက်နာ ဆောင်ရွက်ပါမည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောဝန်ကြီးဌာနကစွန့်ပစ်ရေစံနှုန်းသတ်မှတ်ရန် ရှိသည်ဟုသိရှိရ၊ ယင်းသို့သတ်မှတ်ပြီးပါက အဆိုပါစံနှုန်းအသစ်နှင့်အညီ လိုက်နာဆောင်ရွက်ပါမည်။

လောလောဆယ်အားဖြင့် ထွက်ရှိလာသော စွန့်ပစ်ရေများကို လုပ်ငန်းနေရာ (work site)အလိုက် ကြိုတင်သန့်စင်ခြင်း ဆောင်ရွက်ပါမည်။ ကြိုတင်သန့်စင်ခြင်းတွင် အနည်ထိုင်အောင်ပြုလုပ်ခြင်း၊ ဆီများဖယ်ထုတ်ခြင်း၊ အဆိပ်အတောက်နှင့် သတ္တုများဖယ်ရှားခြင်းတို့ပါဝင်ပါမည်။

ယခုမြေယာစည်ပင်ရေးလုပ်ငန်းများပြီးဆုံးရေး အိမ်ယာစီမံကိန်းများကို စတင်ဆောင်ရွက်သည့်အခါတွင်မူ ကြိုတင်သန့်စင်စနစ်အပြင်အဆိုပါစနစ်မှထွက်လာသော စွန့်ပစ်ရေများကိုဗဟိုသန့်စင်စက်ရုံ တည်ဆောက်၍လည်းကောင်း၊ အနည်ကျကန်များ တည်ဆောက်၍လည်းကောင်း၊ စွန့်ပစ်ရေတွင်ရှိရမည့် စံချိန်စံညွှန်းကိုမှီအောင်ဆောင်ရွက်သွားရမည်ဖြစ်ပါသည်။

ယခုဆောင်ရွက်မည့်စီမံကိန်းမှာမူ မြေယာစည်ပင်ရေးလုပ်ငန်းကို အဓိကလုပ်ဆောင်ခြင်းဖြစ်၍ လုပ်ငန်းနေရာတွင် ကြိုတင်သန့်စင်သည့်စနစ်ကို ကြပ်ကြပ်မတ်မတ်ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ရေထုသို့ မရောက်

မီ သတ်မှတ်စံနှုန်းများကိုမှီအောင် သက်ဆိုင်ရာဝန်ကြီးဌာနများ၏ အကူအညီရယူ၍ဖြစ်စေ၊ ကျွမ်းကျင်သူများ ငှားရမ်း၍ဖြစ်စေ ဆောင်ရွက်မည်ဖြစ်ပါသည်။

ထို့ပြင် စီမံကိန်းဧရိယာအတွင်း အလုပ်လုပ်ကိုင်ကြမည့် အလုပ်သမားများအတွက် မိလ္လာကန်များနှင့် ၄င်းတို့သုံးစွဲရာမှထွက်လာမည့် ရေဆိုးများကို ကျန်းမာရေးထိခိုက်မှုမရှိစေရန်နှင့် စီမံကိန်းဧရိယာအတွင်းရှိ ပတ်ဝန်းကျင်ရေထုသို့ မရောက်ရှိအောင်စီမံဆောင်ရွက်ပါမည်။

ယခုဆောင်ရွက်မည့် လုပ်ငန်းသဘောသဘာအရ စွန့်ပစ်ရေများကို ဓာတုဗေဒနည်းအရသော်လည်း ကောင်း၊ ဇီဝဗေဒနည်းအရလည်းကောင်း အထူးအလည် သန့်စင်အောင် ဆောင်ရွက်ရန်( Chemical and Biological Water Treatment) လိုအပ်မည်မဟုတ်ပါ။ လုပ်ငန်းမှ ထွက်ရှိလာသည့် စက်ဆီ၊ ချောဆီတို့သည် လည်း မျက်နှာပြင်ရေ (Surface Water)ကို ညစ်ညမ်းမှု ဖြစ်စေနိုင်သည့် အလားအလာ အလွန်နည်းပါးပါသည်။

သို့ရာတွင် Concept Planတွင် Water Treatment Plant တည်ဆောက်သွားရန်အတွက် လျာထားပါ သည်။

## စွန့်ပစ်ပစ္စည်းများနှင့် စပ်လျဉ်း၍စီမံထားရှိခြင်း

စွန့်ပစ်ပစ္စည်းများနှင့် စပ်လျဉ်း၍အရှေ့တွင် ဖော်ပြထားသကဲ့သို့ မြေပြင်ပြုပြင်ရေးနှင့် လမ်း၊ ရေမြောင်း ဖောက်လုပ်ရေးမှထွက်ပေါ်လာသည့် စွန့်ပစ်ပစ္စည်းများ ပါဝင်သကဲ့သို့လူတို့မှစွန့်ပစ်သော မလိုအပ်သည့်ပစ္စည်း များပါဝင်ပါသည်။

အဆိုပါစွန့်ပစ်ပစ္စည်းများ၏ ပထမအဆင့်အနေဖြင့် သီးသန့်သတ်မှတ်ထားသော နေရာတွင် စုစည်း သိုလှောင်ထားရှိပြီးနောက် မြို့နယ်အတွင်းသတ်မှတ်ထားရှိသည့် စွန့်ပစ်နေရာသို့လိုအပ်သည့် ယာဉ်၊ ယန္တယား များသုံးကာ သယ်ဆောင်စွန့်ပစ်ပါမည်။

လုပ်ငန်းခွင်အလုပ်သမားများအနေနှင့်လည်း ပတ်ဝန်းကျင်ထိခိုက်မှုကို ဖြစ်စေနိုင်သည့်လုပ်ငန်းများ မလုပ်မိစေရေးနှင့် သန့်ရှင်းကျန်းမာရေးနှင့် လုပ်ငန်းခွင်လုံခြုံရေးဆိုင်ရာ ကိစ္စများနှင့်ပတ်သက်၍ ရှင်းလင်းပြော ကြားမှုများကို လုပ်ငန်းများမဆောင်ရွက်မီကပင် စီစဉ်ဆောင်ရွက်ပါမည်။

စွန့်ပစ်ပစ္စည်းများကို စီမံကိန်းဧရိယာတစ်ခုလုံးအတွက် စနစ်တကျ စီမံနိုင်ရေးကို အထောက်အကူ ဖြစ်စေနိုင်ရန်အတွက် အမှိုက်ပုံးများ (Garbage bins) ကိုလိုအပ်သည့်နေရာများတွင် ချထားပေးခြင်းကို ဆောင်ရွက်ပါမည်။

စွန့်ပစ်ပစ္စည်းများစီမံရေးတွင် မြို့နယ်စည်ပင်သာယာရေးမှ တာဝန်ရှိသူများ၏အကြံဉာဏ်များ၊ ကူညီမှုများကိုလည်းကြိုတင်ညှိနှိုင်း၍ ရယူသွားပါမည်။

ပတ်ဝန်းကျင်ဆူညံမှုနှင့် တုန်ခါမှုမရှိစေရန် ဆောင်ရွက်ခြင်း

အသံဆူညံမှုနှင့် တုန်ခါမှုစံနှုန်းများကို နိုင်ငံတကာအဆင့်တွင် သတ်မှတ်ထားခြင်းမရှိသေးပါ။ သို့ရာတွင် နိုင်ငံအလိုက် ဆူညံမှုတုန်ခါမှုတန်ဖိုး သတ်မှတ်ချက်မှာမူ ရှိနေပါသည်။ အဆိုပါစံနှုန်းများသည်လည်း လုပ်ငန်းနေရာနှင့် အကွာအဝေး၊ အဆိုပါဆူညံမှု၊ တုန်ခါမှု ထိခိုက်စေမည့် နေရာဒေသအမျိုးအစား (ဥပမာ-ဆေးရုံ/ကျောင်း/ဘိုးဘွားရိပ်သာ/ဘာသာရေးအဆောက်အဦး/လူနေရပ်ကွက်) အပေါ်မူတည်၍ ကွဲပြားမှုရှိပါသည်။

ယခုတင်ပြသည့် မြေယာစည်ပင်ရေး လုပ်ငန်းဧရိယာမှာ ကျယ်ပြန့်ပြီး အဆိုပါဆူညံမှု၊ တုန်ခါမှုတို့ ထိခိုက်စေနိုင်သော လူနေအိမ်များ၊ဆိတ်ငြိမ်မှု အထူးလိုအပ်သည့်ဆေးရုံများ၊ ကျောင်းများ၊ ဘာသာရေးအဆောက်အဦးများနှင့် ဝေးလံသောနေရာတွင် တည်ရှိပါသည်။

သို့ရာတွင်လုပ်ငန်းခွင်မှ ထွက်ပေါ်လာမည့် ဆူညံမှုမှာ ရှိနေမည်ဖြစ်ပါသည်။ ဆောင်ရွက်သည့်လုပ်ငန်းများသည် လူနေရပ်ကွက်များနှင့် နီးကပ်လာသည့်အခါတွင် ဆူညံမှု၊တုန်ခါမှုများမှာ ပို၍ရှိလာနိုင်ပါသည်။ ဆောင်ရွက်မည့် လုပ်ငန်းတွင် ပိုင်တူးခြင်းကဲ့သို့ လုပ်ငန်းများ မပါရှိသေးသဖြင့် တုန်ခါမှု ပြဿနာကြီးမားစွာ မရှိနိုင်ပါ။ မြေယာပြုပြင်သော၊ လမ်းဖောက်လုပ်သော စက်ယန္တယားများ၊ ပစ္စည်းအသယ်အပို့လုပ်သော ယာဉ်များမှ ထွက်ပေါ်သည့်ဆူညံမှုသာ အများဆုံးရှိနိုင်မည် ဖြစ်ပါသည်။

သို့ဖြစ်စေကာမူ အဆိုပါဆူညံမှုများသည် နေ့အချိန်တွင်သိသာမည်မဟုတ်ဘဲ ညအချိန်တွင်သာ သိသာစွာရှိမည်ဖြစ်ပါသည်။ သုံးစွဲသည့် စက်ယန္တယားများယာဉ်များကို စနစ်တကျ စစ်ဆေးထိန်းသိမ်းထားခြင်း၊ အသံထိန်းကိရိယာများတပ်ဆင်ခြင်းဖြင့် အလွန်အကျွံဆူညံမှုကို ထိန်းသိမ်းသွားမည်ဖြစ်ပါသည်။

လုံးဝလိုအပ်ခြင်းမရှိဘဲ ညအချိန်မတော် လုပ်ငန်းများလုပ်ဆောင်ခြင်း၊ မိမိလုပ်ငန်းခွင်အတွင်း ယာဉ်များကို အမြန်နှုန်းအလွန်အကျွံတင်၍ မောင်းနှင်ခြင်းများမပြုလုပ်စေရန် အထူးကြပ်မတ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အကယ်၍လုပ်ငန်းတိုးတက်မှု အနေအထားအရ လူနေရပ်ကွက်များနှင့် နီးကပ်လာသည့်အခါများတွင် နားယူသည့်နေ့ရက်များ၊ ကျောင်းသားများစာမေးပွဲဖြေဆိုရသည့် ကာလများတွင် လုပ်ငန်းများကို မလိုအပ်ဘဲ မဆောင်ရွက်မိစေရန် အစီအစဉ်ရေးဆွဲဆောင်ရွက်ပါမည်။ သက်ဆိုင်ရာရပ်ကွက်ပြည်သူအားလည်း မိမိတို့

ဆောင်ရွက်သည့် လုပ်ငန်းအမျိုးအစားနှင့် ဆူညံမှုအနေအထားတို့ကို ကြိုတင်အသိပေးနားလည်မှုရယူထားပါမည်။

သဘာဝပတ်ဝန်းကျင်သာယာအောင်ဆောင်ရွက်ရေး

စီမံကိန်းဧရိယာအတွင်း သဘာဝပတ်ဝန်းကျင်သာယာရေးနှင့်စိမ်းလန်းစိုပြေရေးအတွက် အထူးအလေးထား၍ စီစဉ်ဆောင်ရွက်ထားပါသည်။ စီမံကိန်းဧရိယာ ၂၃၅.၅၄ ကေတွင် စိမ်းလန်းစိုပြေရေးမြေအတွက် ၃၅.၅၄ ကေ (စုစုပေါင်းဧရိယာ၏ ၁၅.၀၉ ရာခိုင်နှုန်း)၊ စိမ်းလန်းစိုပြေရေးလယ်မြေဧရိယာ ၄၃.၆၁ ကေ (စုစုပေါင်းဧရိယာ၏ ၁၈.၅၁ ရာခိုင်နှုန်း) ကိုမြေသုံးချမှုစီမံချက် (Land Use Zone Plan) တွက်ထည့်သွင်းထားပါသည်။ (ပူးတွဲတင်ပြထားသည့် The Concept Planing of Taungoo Industrial Park Project Phase-1 ကိုရည်ညွှန်းပါသည်။)

အဆိုပါဧရိယာများ သာယာလှပရေးအတွက် ရေကန်ကြီးများတူးဖော်ခြင်း၊ မြက်ခင်းပြင်များစိုက်ပျိုးခြင်း၊ အပန်းဖြေပန်းခြံများပြုလုပ်ခြင်းတို့ကို ဆောင်ရွက်သွားမည်ဖြစ်ပါသည်။ ထို့အပြင် စိမ်းလန်းစိုပြေဧရိယာတွင် ဆောင်ရွက်မည့်လုပ်ငန်းများအပြင် လမ်းများထိန်းသိမ်းရေးနှင့်အရိပ်ရရှိရေးတို့အတွက် ဆက်သွယ်ထားသော ပင်မနှင့်အဓိကလမ်းမကြီးများ တစ်ဖက်တစ်ချက်တွင် အရိပ်ရပင်များကိုစိုက်ပျိုးသွားပါမည်။

စက်ဆီချောဆီများထိန်းသိမ်းထားရှိခြင်း

သဘာဝပတ်ဝန်းကျင်ထိခိုက်နိုင်သော အကြောင်းရင်းတစ်ချက်ဖြစ်သည့် စက်သုံးဆီယိုဖိတ်မှုများသည် လေထုကို ညစ်ညမ်းမှုဖြစ်စေသလို မြေဆီမြေလွှာများပျက်ဆီးစေနိုင်သဖြင့် စက်ဆီချောဆီများအား စီမံကိန်းဒေသသို့ သယ်ယူရာတွင်လည်းကောင်း၊ သိုလှောင်ရာတွင်လည်းကောင်း စနစ်တကျဖြင့်သတ်မှတ်ထားသော စံများကိုလိုက်နာ ဆောင်ရွက်ပါမည်။ စက်ဆီယိုဖိတ်မှု မတော်တဆဖြစ်ပေါ်ခဲ့ပါက အရေးပေါ်ဆောင်ရွက်ရမည် စံလုပ်ထုံးလုပ်နည်းများ (Emergency Standard Operating Procedures) များကို ရေးဆွဲချမှတ်ထားပြီး သက်ဆိုင်ရာ တာဝန်ရှိသူများကို အဆိုပါ စံများ၊လုပ်ထုံးလုပ်နည်းများကို ယဉ်ပါးကျွမ်းကျင်အောင် လေ့ကျင့်ပြင်ဆင်သွားပါမည်။

အဖွဲ့အစည်းပိုင်းဆိုင်ရာ စီစဉ်ဆောင်ရွက်မှု (Institutional Measures)

အထက်ပါ ပတ်ဝန်းကျင် စီမံခန့်ခွဲရေး အစီအစဉ်ကို အတိအကျ အကောင်အထည်ဖော်နိုင်ရေးအတွက် အဖွဲ့အစည်းပိုင်းဆိုင်ရာ စီစဉ်ဆောင်ရွက်မှုများကို အောက်ပါအတိုင်း ဆောင်ရွက်ပါမည်။

မြေယာစည်ပင်ရေးလုပ်ငန်းများတွင် ပါဝင်သည့်မြေပြုပြင်ရေးလုပ်ငန်း၊လမ်းဖောက်လုပ်ရေးလုပ်ငန်းတို့ကို ကန်ထရိုက်များငှားရမ်း လုပ်ကိုင်မည်ဖြစ်ပြီး အဆိုပါကန်ထရိုက်များက စီမံကိန်းရုံးကိုတည်ထောင်၍ (Site Plan) နှင့်အညီ အသေးစိတ်ဒီဇိုင်းရေးဆွဲခြင်း၊ မြေပြုပြင်ရေးနှင့်လမ်းဖောက်ခြင်းလုပ်ငန်းများကို ကြီးကြပ်

ခြင်း၊စီမံခန့်ခွဲခြင်း၊ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ အစီအမံများကိုဆောင်ရွက်ပါမည်။ ပတ်ဝန်းကျင်စီမံခန့်ခွဲရေးအစီစဉ်အရ လုပ်ဆောင်ရာတွင်အမှန်တကယ်ရရှိလာသည့် ရလဒ်များကို အဆိုပါစီမံကိန်းရုံးက စောင့်ကြည့်ပါမည်။ အဆိုပါရလဒ်များကို အခြေပြု၍အစီရင်ခံစာကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ (၃)လ တစ်ကြိမ်တင်ပြပါမည်။အဆိုပါအစီရင်ခံစာ မိတ္တူကို ကေတုမတီဖွံ့ဖြိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၏ Board of Director အဖွဲ့သို့ကုမ္ပဏီ CEO မှပေးပို့ပါမည်။

စီမံကိန်း စီမံခန့်ခွဲကြီးကြပ်ရေးဆိုင်ရာဖွဲ့စည်းပုံကို အောက်တွင်ဖော်ပြအပ်ပါသည်။



စီမံကိန်းရုံးသည် ကန်ထရိုက်တာ၏ ကြီးကြပ်မှုဖြင့် စီမံကိန်း၏ လုပ်ငန်းအစိတ်အပိုင်းကို အချိန်ကာလ သတ်မှတ်ချက်များဖြင့် အကောင်အထည်ဖော်ရန်ဖြစ်ပြီး အဆိုပါဆောင်ရွက်မှုသည် ချုပ်ဆိုထားသော ကန်ထရိုက်စာချုပ်ပါ သဘောတူညီချက်များနှင့်အညီ ဆောင်ရွက်ရန်ဖြစ်ပါသည်။ စီမံကိန်းရုံး၏ အောက်တွင်ပတ်ဝန်းကျင် စီမံခန့်ခွဲရေးအစီအစဉ်အကောင်အထည်ဖော်မှုကို စောင့်ကြည့်သည်အဖွဲ့များရှိပါမည်။ ၎င်းအဖွဲ့များက စောင့်ကြည့်မှုမှ တွေ့ရှိချက်များအပေါ်အခြေပြု၍ စောင့်ကြည့်အစီရင်ခံစာတွင် (ပတ်ဝန်းကျင်ထိခိုက်မှု Enviornment Impact ) ကိုလျော့ပါးစေနိုင်သည့် အကြံပြုချက်များ (Mitigation Recommendations) များကိုလိုအပ်ပါက ထည့်သွင်းတင်ပြနိုင်ပါသည်။

စီမံကိန်းရုံးသည် မြေယာစည်ပင်ရေးလုပ်ငန်းနှင့် EMP အကောင်အထည်ဖော်ရေးနှင့် ပတ်သက်၍ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက် CEO နှင့် BOD သို့ကန်ထရိုက်ပါ သဘောတူညီချက်များ၏ ဆောင်ရွက်မှုများမှ တာဝန်ခံရမည်ဖြစ်ပါသည်။

အဆိုပါကိစ္စများကို အောင်အောင်မြင်မြင်ဆောင်ရွက်နိုင်ရေးအတွက် စီမံကိန်းရုံးတွင် အုပ်ချုပ်ရေးဌာနခွဲ ၊နည်းပညာဌာနခွဲ၊ အင်ဂျင်နီယာဌာနခွဲ နှင့် ပတ်ဝန်းကျင်နှင့် လူမှုဌာနခွဲဟူ၍ ဌာနခွဲ (၄) ခုရှိပါမည်။ စီမံကိန်းရုံးတွင် ကနဦး(၈)ဦးခန့်ပါဝင်ပါမည်။

ပတ်ဝန်းကျင်နှင့်လူမှုဌာနခွဲသည် အခြေခံအဆောက်အအုံတည်ဆောက်မှုတွင် ပတ်ဝန်းကျင်နှင့် လူမှုရေး ဆိုင်ရာကိစ္စများကို တာဝန်ယူပါမည်။ စီမံကိန်းဆောင်ရွက်နေသော ကာလအတွင်း ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ကြိုတင်ကာကွယ်ပြင်ဆင်မှုများ (precautionary measures) ကိုဦးစွာဆောင်ရွက်ပါမည်။ ဤလုပ်ငန်းတွင် စီမံကိန်းဧရိယာ၏ လက်ရှိတည်ဆဲပတ်ဝန်းကျင်အခြေအနေ နှင့် လူမှုရေးအခြေအနေတို့ကို လေ့လာသုံးသပ်မှတ်တမ်းရယူပြင်ဆင်ပြီး EMP အကောင်အထည်ဖော်မှုမှရရှိသည့် ရလဒ်များနှင့် ချင့်ချိန်နိုင်စေရန်ဖြစ်ပါသည်။ ၎င်းအပြင် အောက်ဖော်ပြပါအဓိကလုပ်ငန်းများကို ဆောင်ရွက်ရန်လည်း တာဝန်ရှိပါမည်။

(၁) စီမံကိန်းပါလုပ်ငန်းအစိတ်အပိုင်းများ (ရှေ့တွင်ဖော်ပြပြီး) ကို ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်အရ ကြီးကြပ်စောင့်ကြည့်ခြင်း၊

(၂) ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ကိစ္စများနှင့်ပတ်သတ်၍ သက်ဆိုင်ရာအစိုးရဌာနများနှင့်ညှိနှိုင်း ဆောင်ရွက်ခြင်း၊

(၃) အခြေခံအဆောက်အအုံတည်ဆောက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးပြဿနာများကို ကိုင်တွယ်ဖြေရှင်းခြင်း၊

(၄) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် အခြားသက်ဆိုင်ရာဌာနများက အခါအားလျော်စွာ ထုတ်ပြန်သည့်ပတ်ဝန်းကျင်ဆိုင်ရာ စံနှုန်းများကိုစောင့်ကြည့်လေ့လာခြင်း၊ EMP တွင်လိုအပ်သလို (ဆိုင်ရာများနှင့် ညှိနှိုင်းပြီးနောက်) ပြုပြင်ခြင်း၊

(၅) စောင့်ကြည့်မှုအစီရင်ခံစာများကို (၃)လတစ်ကြိမ် ပတ်ဝန်းကျင်ထိန်းသိမ်းခြင်းနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် BOD နှင့် အခြားသက်ဆိုင်ရာဌာနများသို့တင်ပြခြင်း၊

(၆) ပတ်ဝန်းကျင်ဆိုင်ရာအရေးပေါ်အခြေအနေ တစ်ရပ်သည် သဘာဝအလျောက်ဖြစ်စေ၊ လုပ်ငန်းခွင်မှအလုပ်ကြောင့်ဖြစ်စေ ပေါ်ပေါက်လာပါက ချက်ခြင်းအရေးယူဆောင်ရွက်ရန် နှင့်ဆောင်ရွက်စဉ်သက်ဆိုင်ရာတာဝန်ရှိသူများ၊ အစိုးရဌာနများသို့ အချိန်နှင့်တစ်ပြေးညီတင်ပြအသိပေးပြီး အရေးပေါ်အခြေအနေ ပျောက်ကွယ်သည်အထိ ဆောင်ရွက်ရန် Institutional Measure အရဖွဲ့စည်းသော စီမံကိန်းရုံးကိုဒါရိုက်တာအဆင့်ရှိပုဂ္ဂိုလ်က ဦးဆောင်ပြီးဌာနခွဲများတွင် ဒုတိယညွှန်ကြားရေးမှူးအဆင့်ရှိ ပုဂ္ဂိုလ်များကတာဝန်ယူမည်ဖြစ်ပါသည်။

စီမံကိန်းရုံး၏ဝန်ထမ်းအင်အားကို လိုအပ်သလိုတိုးမြှင့်နိုင်ရေးကို စီမံကိန်းရုံးဒါရိုက်တာက အကြံပြုတင်ပြလာပါက တိုးချဲ့ခန့်အပ်နိုင်မည်ဖြစ်ပါသည်။

<u>**ပတ်ဝန်းကျင်စီမံခန့်ခွဲရေး အစီအစဉ် အကောင်အထည်ဖော်မှုအတွက် တာဝန်ယူမှုဇယား**</u>

ပတ်ဝန်းကျင်စီမံခန့်ခွဲရေး အစီအစဉ်ကို အကောင်အထည်ဖော်ရေးတွင် စီမံကိန်းစသည့် ကာလမှစ၍ ဆောင်ရွက်ပါမည်။

| အမျိုးအစား | သဘာဝပတ်ဝန်းကျင် စီမံခန့်ခွဲမှု | အကောင်အထည် ဖော်မည့်သူ | တာဝန်ယူမည့်အဖွဲ့ |
|---|---|---|---|
| ၁။လေထုအရည်အသွေး | ▪ လေထုအရည်အသွေးစောင့်ကြည့်ထိန်းသိမ်းခြင်း<br>▪ ဖုန်သဲပြန့်လွင့်မှုရှိသောဧရိယာများကိုရေဖြန်းခြင်း<br>▪ စက်ယန္တယားများ၊ယာဉ်များအလွန်အကျွံသုံးစွဲမှုကို ထိန်းသိမ်းခြင်း | ကန်ထရိုက်တာ | ဥက္ကဋ္ဌ<br>BOD<br>CEO<br>(စီမံကိန်းဦးဆောင်သူများ) |
| ၂။ ရေထုအရည်အသွေး | ▪ စီးဆင်းရေဖြစ်သည့်မြစ်ချောင်းများ၊ရေတွင်းရေကန်အင်းအိုင်များ၏အရည်အသွေးကို ကျွမ်းကျင်သူများငှားရမ်း၍စောင့်ကြည့်တိုင်းတာခြင်း<br>▪ မိလ္လာကန်များစနစ်တကျတည်ဆောက်ခြင်း | ကန်ထရိုက်တာ | ဥက္ကဋ္ဌ<br>BOD<br>CEO |

| | | | |
|---|---|---|---|
| | ▪ ကြိုတင်ရေသန့်စင်သောရေကန်ငယ်များ လုပ်ငန်းနေရာများတွင် တည်ဆောက်ခြင်း | | |
| ၃။ စွန့်ပစ်ပစ္စည်း | ▪ မြေယာစည်ပင်ရေးလုပ်ငန်းမှစွန့်ပစ်ပစ္စည်းများ စနစ်တကျထားရှိခြင်း<br>▪ မြို့နယ်ရှိသက်ဆိုင်ရာ စွန့်ပစ်နေရာများသို့ပေးပို့ခြင်း | ကန်ထရိုက်တာ | |
| ၄။ ဆူညံမှု တုန်ခါမှု | ▪ စက်ယန္တယားများ၊ ယာဉ်များမှ ထွက်ပေါ်လာသည့်ဆူညံမှုနှင့်တုန်ခါမှုတို့ကို ဆိတ်ငြိမ်မှု လိုအပ်သည့် ဆေးရုံ၊ ကျောင်း၊ တက္ကသိုလ်၊ ဘာသာရေးအဆောက်အဦးရှိရာ ဒေသများမှစောင့်ကြည့်တိုင်းတာခြင်း<br>▪ စီမံကိန်းလုပ်ငန်းများနှင့်နီးနေသော လူနေအိမ်ယာများသို့ ကြိုတင်သတိပေးခြင်း<br>▪ စက်ယန္တယားများ၊ယာဉ်များအလွန်အကျွံသုံးစွဲမှုကိုလျှော့ချခြင်း | ကန်ထရိုက်တာ | BOD<br>CEO |
| ၅။ မြေကျွံကျမှုနှင့် ရေသုံးစွဲမှု | ▪ စီမံကိန်းအတွက် ရေသုံးစွဲမှုအတိုင်းအတာကို စောင့်ကြည့် ခြင်း၊ မြေအောက်ရေအခြေအနေ (Underground water level) ကို ကျွမ်းကျင်သူများ ငှားရမ်းခန့်အပ်၍ စောင့်ကြည့်ခြင်း | ကန်ထရိုက်တာ | BOD<br>CEO |
| ၆။ အလုပ်အကိုင် အခြေအနေ | ▪ စီမံကိန်းတွင်လုပ်ကိုင်နေသော လုပ်သားများလုပ်ငန်းခွင် ဘေးကင်းရေးကျန်းမာရေး တို့အတွက် သင်တန်းများနှင့် ဟောပြောရှင်းပြမှုများပြုလုပ်ခြင်း။ | ကန်ထရိုက်တာ | BOD<br>CEO |
| ၇။မြေဆီလွှာ ညစ်ညမ်းစေခြင်း | ▪ မြေဆီလွှာကိုညစ်ညမ်းစေသည့် အမှိုက်သရိုက်များနှင့် ရေဆိုးများအားထိန်းချုပ်ခြင်း။ | ကန်ထရိုက်တာ နှင့် လုပ်ငန်းနေရာကြီးကြပ်သူများ | BOD<br>CEO |

<u>နိဂုံး</u>

ပတ်ဝန်းကျင်စီမံခန့်ခွဲရေးအစီအစဉ်များကို ဖော်ပြထားသောဖွဲ့စည်းပုံပါအတိုင်း ကြပ်မတ်ကွပ်ကဲ၍ စောင့်ကြည့်ရမည့် နေရာများကို စီမံကိန်းဆောင်ရွက်နေသည့် ကာလတစ်လျှောက်လုံး စနစ်တကျစောင့်ကြည့်သွားမည်ဖြစ်ပါသည်။

လုပ်ငန်းသည် မြေယာစည်ပင်ရေးလုပ်ငန်းဖြစ်သဖြင့် လေထုညစ်ညမ်းမှုကို ယာယီဖြစ်စေနိုင်မည် ဖြစ်ပါသည်။ အလားတူပင် မြေယာစည်ပင်ရေးလုပ်ငန်းများမှထွက်ရှိလာမည့် ညစ်ညမ်းရေများသည်လည်း အချိန်ပိုင်းသာဖြစ်နိုင်ပြီး ကြိုတင်ရေသန့်စင်သည့်စနစ်ကို work-site အလိုက်ဆောင်ရွက်မည်ဖြစ်သဖြင့် ပတ်ဝန်းကျင်ရေထုတွင်းသို့ မရောက်မီကပင် ရေ၏ညစ်ညမ်းမှုသည် လက်ခံနိုင်သည့် အဆင့်အထိသန့်စင်ပြီး ဖြစ်မည့်အပြင် ဇဟိုသန့်စင်စက်ရုံတည်ဆောက်ပြီးသည့်ကာလတွင် ရေဆိုးများပတ်ဝန်းကျင်ရေထုတွင်းသို့ ဝင်ရောက်မှုရှိမည်မဟုတ်ပါ။

စီမံကိန်းဧရိယာမှထွက်ပေါ်လာမည့် စွန့်ပစ်ပစ္စည်းမှာပမာဏအားဖြင့် နည်းပါးမည်ဖြစ်ပါသည်။ အကြောင်းမှာ စီမံကိန်း၏အဓိကလုပ်ငန်းမှာ မြေယာစည်ပင်ရေးဖြစ်သောကြောင့် ဖြစ်ပါသည်။

မြေယာစည်ပင်ရေးဆောင်ရွက်မည့် စီမံကိန်းဧရိယာသည် အဓိကအားဖြင့် လယ်ယာမြေနှင့် မြေလွတ်နေရာများဖြစ်သဖြင့် မြေဆီလွှာညစ်ညမ်းမှုရှိမည်မဟုတ်ပါ။ သို့ရာတွင် လုပ်ငန်းမှထွက်ပေါ်လာမည့်အမှိုက်သရိုက်၊ စွန့်ပစ်ပစ္စည်းများကြောင့် မြေဆီလွှာညစ်ညမ်းမှုမှာ အနည်းငယ်ရှိမည်ဖြစ်သော်လည်း EMPမှပါရှိသည့်အတိုင်း အဆိုပါစွန့်ပစ်ပစ္စည်းများကိုလည်း စနစ်တကျစွန့်ပစ်မည်ဖြစ်သဖြင့် မြေဆီလွှာညစ်ညမ်းမှုမှာ စိုးရိမ်ဖွယ်ရာအဆင့်သို့ ရောက်ရှိမည်မဟုတ်ပါ။

ဆူညံမှုနှင့် တုန်ခါမှုများသည်လည်း အနည်းငယ်သာရှိနိုင်ပါသည်။ အဘယ့်ကြောင့်ဆိုသော် ဆူညံသံနှင့် တုန်ခါမှုဖြစ်စေသောအရင်းအမြစ်များသည် လူနေဧရိယာများ၊ ဆိတ်ငြိမ်ဧရိယာများနှင့် ဝေးကွာသည့်နေရာတွင် ရှိသောကြောင့်ဖြစ်ပါသည်။ စီမံကိန်းဧရိယာသည် လယ်ယာမြေနှင့် မြေလွတ်နေရာများသာဖြစ်ရာ အရေးပါသောအဓိကမျိုးစိတ်များ မရှိသဖြင့် စီမံကိန်းသည် အဆိုပါဒေသ၏ဂေဟစနစ်၊ သက်ရှိသတ္တဝါများ၊ သက်မဲ့ရုပ်ဝတ္ထုများနှင့် အပင်များ သဟဇာတဖြစ်လျက် တည်ရှိနေသောသဘာဝစနစ် (Ecology) ကိုထိခိုက်စရာ အကြောင်းမရှိပါ။

အထက်ဖော်ပြပါအကြောင်းများကြောင့် ဤစီမံကိန်းသည် EMPကို အတိအကျ အကောင်အထည်ဖော်ခြင်းဖြင့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုနှင့် ညစ်ညမ်းမှုများမဖြစ်စေပါကြောင်း တင်ပြပါသည်။ ဤပတ်ဝန်းကျင်စီမံခန့်ခွဲရေးအစီအစဉ်အား စီမံကိန်းတစ်ခုလုံးကို စီမံချက်ရေးဆွဲရာတွင်လည်းကောင်း၊ ဘတ်ဂျက်ရေးဆွဲရာတွင်လည်းကောင်း ထည့်သွင်းမည်ဖြစ်ပါသည်။ သို့ဖြစ်၍ဤအစီအစဉ်ကို အကောင်အထည်ဖော်ရာတွင် လိုအပ်သောရန်ပုံငွေနှင့် ကြီးကြပ်မှုများကို ထိထိရောက်ရောက်ပါရှိပါမည်။

အခြားတစ်ဖက်တွင်မူ အခြေခံအဆောက်အအုံလုပ်ငန်းအတွက် လုပ်သားများစွာလိုအပ်မည်ဖြစ်သဖြင့် ပတ်ဂန်းကျင်ဒေသရှိလူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများစွာ ပေါ်ပေါက်စေမည်ဖြစ်ပါသည်။ သို့ဖြစ်၍ အစိုးရ၏ ဆင်းရဲနွမ်းပါးမှုလျှော့ချရေးစီမံချက်များကိုလည်း တစ်ဖက်တစ်လမ်းမှများစွာ အထောက်အပံ့ဖြစ်စေမည့် ကောင်းကျိုးများကိုရရှိနိုင်မည့်အပြင် ဤစီမံကိန်း၏ဒုတိယအဆင့်ဖြစ်သော အိမ်ယာစီမံကိန်းများစတင်လာသည့်အခါအဆိုပါဒေသသည် အရှိန်အဟုန်ဖြင့်ဖွံ့ဖြိုးတိုးတက်လာနိုင်မည်ဟု ယုံကြည်ပါသည်။

(ဒေါ်ခင်လှလှ)

ဥက္ကဋ္ဌ

ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး

အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်

KAYTUMADI DEVELOPMENT PUBLIC COMPANY LIMITED

5th Floor, Saya San Plaza, Corner of New University Avenue & Saya San Road,
Bahan Township, Yangon, Republic of the Union of Myanmar.
Tel: +95(0)9-863 5910
E-mail: kma.bde.5@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ် ၊ ဇန်နဝါရီလ (၁၉) ရက်

အကြောင်းအရာ။ ။ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၏ စက်မှုဇုန် လုပ်ငန်းလုပ်ကိုင်မည့်တည်နေရာ ဆက်စပ်အစီအစဉ်များနှင့် ရင်းနှီးမြှုပ်နှံ ရန် စိတ်ဝင်စားသော လုပ်ငန်းများတင်ပြခြင်း။

အထက်အကြောင်းရာပါကိစ္စ နှင့်ပတ်သက်၍ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများ နှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်သည် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊နေပူကုန်း ကျေးရွာ အုပ်စု (အုပ်စုအမှတ် ၂)၊ကွင်းအမှတ် ၅၉၉/ဂ၊နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းဘဲစာ ကွင်း၊ ၆၀၀-ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆-ကံယောကွင်းတွင်တည်ရှိသော ခွင့်ပြုထားသည့် မြေနေရာ တွင် ဧရိယာ (၂၃၅.၅၄) ဧက ကျယ်ဝန်းသော စက်မှုဥယျာဉ်မြို့တော် စီမံကိန်းလုပ်ငန်း နှင့် ပတ်သက်သော ဆက်စပ်အစီအစဉ်များ နှင့် ရင်းနှီးမြှုပ်နှံရန် စိတ်ဝင်စားသောလုပ်ငန်းများအစရှိ သည်တို့ကို အောက်ဖော်ပြပါအတိုင်းတင်ပြ အပ်ပါသည်။

| | |
|---|---|
| (၁) တည်နေရာ | : ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊နေပူကုန်း ကျေးရွာ အုပ်စု (အုပ်စုအမှတ် ၂)၊ကွင်းအမှတ် ၅၉၉/ဂ၊ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းဘဲစာကွင်း ၊ ၆၀၀-ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆-ကံယော ကွင်း |
| (၂) မြေဧရိယာ | : ၂၃၅.၅၄ ဧက |
| (၃) လျာထားသော မြေဧရိယာ | : ၂၃၅.၅၄ ဧက |
| (၄) လမ်းဖောက်လုပ်မှု ဆောင်ရွက်မှု | : ပေ ၁၀၀ Main Road (၁)လမ်းနှင့် ပေ ၆၀ အရှည် Secondary Road (၁၀) လမ်းဖြင့် လမ်းဖောက်လုပ် ဆောင်ရွက်ပါမည်။ |

## ကေတုမတီ ဖွံ့ဖြိုး တိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက် မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်ရှိမြေ ၁၃၁၁ ဧကနှင့် ၂၃၅.၁၄ တွင် စက်မှု ဥယျာဉ်ဖော်ထုတ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်းများနှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ | - Kaytumadi Development Public Co., Ltd.<br>ဒေါ်ခင်ခင်လှ၊ ဥက္ကဋ္ဌ | Kaytumadi Development Public Co., Ltd.<br>ဒေါ်ခင်ခင်လှ၊ ဥက္ကဋ္ဌ |
| ၂။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| ၃။ | ဖွဲ့စည်းမှုပုံစံ | - အများပိုင်ကုမ္ပဏီ (Public Company ဖြစ်ပါသည်) | အများပိုင်ကုမ္ပဏီ (Public Company ဖြစ်ပါသည်) |
| ၄။ | တည်နေရာ | - ရန်ကုန်-မန္တလေး အမြန်လမ်းမကြီးဘေး ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ ပဲချက်ကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ်၅၈၁၊ တောင်ကြီးတက်ကွင်းရှိ မြေဧရိယာ ၁၃၁၁ ဧက | ပဲခူးတိုင်းဒေသကြီး၊တောင်ငူမြို့နယ်၊နေပူကုန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅၉၉/ဂ၊ နေပူကုန်းတော အရှေ့ကွင်း၊ ၅၉၂/ကဝမ်းဘဲစာကွင်း၊ ၆၀၀-ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆-ကံယောကွင်းရှိမြေ ၂၃၅.၁၄ဧက |
| ၅။ | လုပ်ငန်းအမျိုးအစား<br>မြေအမျိုးအစားနှင့်<br>မြေအထောက်အထား | - စက်မှုဥယျာဉ် ဖော်ထုတ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်း<br>- မြေလွတ်မြေလပ်မြေရိုင်းမြေဧရိယာ ၁၃၁၁ ဧက<br>- စက်မှုမြေဂရန် ရရှိပြီးဖြစ်ပါသည်။ | စက်မှုဥယျာဉ် ဖော်ထုတ်ခြင်းနှင့် ငှားရမ်းခြင်းလုပ်ငန်း<br>မြေလွတ်မြေလပ်မြေရိုင်းမြေဧရိယာ၂၃၅.၁၄ ဧက<br>စက်မှုမြေဂရန် ရရှိပြီးဖြစ်ပါသည်။ |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | စုစုပေါင်းကျပ် ၁၀၄၀၀၄.၁၄ သန်း [ကိုယ်ပိုင် မတည်ငွေ ကျပ် ၅၄၀၀၄ သန်း (၅၂%) ချေးငွေ ကျပ် ၅၀၀၀၀ သန်း (၄၈%) ]<br>**ကျပ်သန်းပေါင်း**<br>ငွေသား - ၁၀၀.၀၀<br>Development Cost - ၁၀၁၂၈၁.၇၉<br>မြေတန်ဖိုး - ၂၆၂၂.၃၅<br>**စုစုပေါင်း - ၁၀၄၀၀၄.၁၄** | စုစုပေါင်းကျပ် ၂၂၇၅၃.၁၈ သန်း [ကိုယ်ပိုင် မတည်ငွေ ကျပ် ၁၁၇၅၃.၁၈ သန်း (၅၂%) ချေးငွေ ကျပ် ၁၁၀၀၀သန်း (၄၈%)]<br>**ကျပ်သန်းပေါင်း**<br>ငွေသား - ၁၀၀.၀၀<br>Development Cost - ၂၂၁၈၁.၇၅<br>မြေတန်ဖိုး - ၄၇၁.၄၃<br>**စုစုပေါင်း - ၂၂၇၅၃.၁၈** |
| ၇။ | တည်ဆောက်ရေးကာလ | - ၃ နှစ် | ၃ နှစ် |
| ၈။ | ရင်းနှီးမြှုပ်နှံမှု သက်တမ်း | - ၃၀ နှစ် | ၃၀ နှစ် |
| ၉။ | ဝန်ဆောင်နိုင်မှု<br>(၆ နှစ်မြောက်) | - စုစုပေါင်း ဖော်ထုတ်မည့်မြေ ၁၃၁၁ ဧကအနက် Used Area ၁၀၀၆.၁၇ အား တစ်စတုရန်းမီတာလျှင် ကျပ်၄၅၀၀ (တစ်ဧကလျှင် ကျပ် ၁၈၂.၁၁သိန်း)နှုန်းဖြင့်ငှားရမ်းခဝင်ငွေများရရှိမည် ဖြစ်ပါသည်။ | စုစုပေါင်း ဖော်ထုတ်မည့်မြေ ၂၃၅.၁၄ဧကအနက် Used Area ၁၄၈.၃၉ အား တစ်စတုရန်းမီတာလျှင် ကျပ်၄၅၀၀ (တစ်ဧကလျှင် ကျပ် ၁၈၂.၁၁ သိန်း) နှုန်းဖြင့် ငှားရမ်းခဝင်ငွေများ ရရှိမည် ဖြစ်ပါသည်။ |

| စဉ် | ဖော်ထုတ်မည့် မြေအမျိုးအစား | ဖော်ထုတ်မည့် ဧရိယာ (ဧက) | ဖော်ထုတ်မည့် အကွက် |
|---|---|---|---|
| ၁။ | Residence Land | ၇၀.၉၇ | ၃၆ |
| ၂။ | Commercial Land | ၅၆.၇၆ | ၆ |
| ၃။ | Industrial Land | ၅၆၇.၁၃ | ၇၈ |
| ၄။ | Logistics Land | ၆၅.၅၅ | ၃ |
| ၅။ | Public Administration Land | ၆၅.၅၅ | ၇ |
| ၆။ | Transportation Facilities | ၂၆၂.၂၂ | - |
| ၇။ | Green Space | ၉၁.၇၇ | ၇ |
| ၈။ | Utility | ၆၅.၅၅ | ၅ |
| ၉။ | Water Area | ၆၅.၅၅ | ၁ |
| | **Total Area** | ၁၃၁၁.၀၀ | ၁၄၃ |
| | **Utility Area** | ၄၈၅.၀၉ | |
| | **Used Area** | ၈၂၅.၉၁ | |

| စဉ် | ဖော်ထုတ်မည့် မြေအမျိုးအစား | ဖော်ထုတ်မည့် ဧရိယာ (ဧက) | ဖော်ထုတ်မည့် အကွက် |
|---|---|---|---|
| ၁။ | Residence Land | ၁၁.၇၇ | ၈ |
| ၂။ | Commercial Land | ၁၄.၁၃ | ၄ |
| ၃။ | Industrial Land | ၉၉.၃၃ | ၂၀ |
| ၄။ | Logistics Land | ၁၀.၉၈ | ၅ |
| ၅။ | Public Administration Land | ၁၁.၇၇ | ၄ |
| ၆။ | Transportation Facilities | ၅၅.၂၆ | - |
| ၇။ | Green Space | ၁၆.၄၉ | ၅ |
| ၈။ | Utility | ၁၁.၇၇ | ၄ |
| ၉။ | Water Area | ၃.၃၃ | ၁ |
| | **Total Area** | ၂၃၅.၅၄ | ၅၂ |
| | **Utility Area** | ၈၇.၁၅ | |
| | **Used Area** | ၁၄၈.၃၉ | |

| | | | |
|---|---|---|---|
| ၁၀။ | ဝန်ထမ်းအင်အား (ပထမနှစ်) | - ၁၃၉ ဦး | ၅၂ ဦး |
| | -ပြည်တွင်း | - ၁၃၉ ဦး (တစ်လအတွက် အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၀၈၀၀၀ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၅၀၀၀၀၀ ဖြစ်ပါသည်။ | ၅၂ ဦး (တစ်လအတွက် အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၀၈၀၀၀ နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၅၀၀၀၀၀ ဖြစ်ပါသည်။ |
| | -ပြည်ပ | - မရှိပါ | မရှိပါ |
| ၁၁။ | ဝင်ငွေ (၆ နှစ်မြောက်) | - ကျပ် ၁၅၇၉၂.၅၇ သန်း | ကျပ် ၁၆၂.၄၂ သန်း |
| ၁၂။ | အသားတင်အမြတ် | - ကျပ် ၄၅၉၂.၃၃ သန်း | ကျပ် ၄၈၇.၂၆ သန်း |

| | | | |
|---|---|---|---|
| ၁၃။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ်(၆နှစ်မြောက်) | | |
| | ဝင်ငွေခွန် | - ကျပ် ၁၅၃၀.၇၈ သန်း | ကျပ် ၁၈၀.၂၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၇၅၂.၀၃ သန်း | ကျပ် ၁၃၅.၁၂ သန်း |
| ၁၄။ | အရင်းကြေကာလ | - ၁၃ နှစ် ၄ လ | ၁၇ နှစ် ၅ လ |
| ၁၅။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - ၇.၆၅ % | ၄.၄၄ % |
| ၁၆။ | CSR ထည့်ဝင်မှု | - နှစ်စဉ် အသားတင်အမြတ်၏ ၂% အား သုံးစွဲမည်ဖြစ်ပါသည်။ | နှစ်စဉ် အသားတင်အမြတ်၏ ၂% အား သုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၇။ | ငွေကြေးအထောက်အထား | - ငွေကြေး အထောက်အထားအဖြစ် Kaytumadi Development Public Co., Ltd. အမည်ဖြင့် CBဘဏ်တွင် (၂၂-၁၀-၂၀၁၅) ရက်နေ့ရှိ ငွေလက်ကျန် ကျပ် ၃၄၈၁၅၆၂ ရှိကြောင်း တင်ပြထားပါသည်။ | ငွေကြေး အထောက်အထားအဖြစ် Kaytumadi Development Public Co., Ltd. အမည်ဖြင့် CBဘဏ်တွင်(၂၂-၁၀-၂၀၁၅) ရက်နေ့ရှိ ငွေလက်ကျန် ကျပ် ၃၄၈၁၅၆၂ ရှိကြောင်း တင်ပြထား ပါသည်။ |
| ၁၈။ | သဘောထားမှတ်ချက်များ | | |
| | ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ **(နောက်ဆက်တွဲ-က)** | ကန့်ကွက်ရန်မရှိပါကြောင်း။ | ကန့်ကွက်ရန်မရှိပါကြောင်း။ |
| | ကာကွယ်ရေးဝန်ကြီးဌာန **(နောက်ဆက်တွဲ-ခ)** | ကန့်ကွက်ရန်မရှိပါကြောင်း။ | ကန့်ကွက်ရန်မရှိပါကြောင်း။ |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန **(နောက်ဆက်တွဲ-ဂ)** | (က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန် အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့်လူမှုရေးဆိုင်ရာ ပူးပေါင်း ဆောင်ရွက်မှု (Corpo -rate Social Responsibility –CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။ | (က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန် အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့်လူမှုရေးဆိုင်ရာပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility –CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင် အထည်ဖော် ဆောင်ရွက်ရန်။ |

| | | | |
|---|---|---|---|
| | | (ခ) အဆိုပြုစီမံကိန်း လုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေး တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environ-mental Impact Assessment-EIA) ကို ဆောင်ရွက်ပြီး အစီရင်ခံစာရေးသားတင်ပြရန်။<br>(ဂ) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန် အတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ် နှင့် စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင် အထည်ဖော် ဆောင်ရွက်ရန်။ | (ခ) အဆိုပြုစီမံကိန်း လုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environ-mental Impact Assessment-EIA)ကို ဆောင်ရွက်ပြီး အစီရင်ခံစာရေးသား တင်ပြရန်။<br>(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ် အရည်များ စီမံခန့်ခွဲမှု အစီအစဉ် နှင့် စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်းအကောင်အထည်ဖော် ဆောင်ရွက်ရန်။ |
| | စက်မှုဝန်ကြီးဌာန<br>**(နောက်ဆက်တွဲ-ဃ)** | (က) စီမံကိန်းတည်ဆောက်မည့် စက်မှုလုပ်ငန်းများ၏ လုပ်ငန်း အမျိုး အစားများ ဖော်ပြရန်။<br>(ခ) မြေအသုံးချရေး မူဝါဒအရ စက်မှုဥယျာဉ်မြို့တော် ထူထောင်ရာ တွင် လမ်း+Open Space၊ ဆေးရုံ (သို့) ဆေးခန်း၊ အုပ်ချုပ်ရေး ရုံး၊ မီးသတ်ဌာန၊ သစ်ပင်ပန်းခြံဧရိယာ၊ စက်မှု လုပ်ငန်းသုံး အဆိပ်အတောက်ပစ္စည်းများ စနစ်တကျ စွန့်ပစ်ရေးနှင့် စက်ရုံ ဧရိယာများစသည့် အင်္ဂါရပ်များနှင့်အညီ အချိုးအစား မျှတစွာ ဆောင်ရွက်ရန်။ | (က) စီမံကိန်းတည်ဆောက်မည့် စက်မှုလုပ်ငန်းများ၏ လုပ်ငန်း အမျိုး အစားများ ဖော်ပြရန်။<br>(ခ) မြေအသုံးချရေး မူဝါဒအရ စက်မှုဥယျာဉ်မြို့တော် ထူထောင်ရာတွင် လမ်း+Open Space၊ ဆေးရုံ (သို့) ဆေးခန်း၊ အုပ်ချုပ်ရေးရုံး၊ မီးသတ်ဌာန၊ သစ်ပင်ပန်းခြံဧရိယာ၊ စက်မှုလုပ်ငန်းသုံး အဆိပ် အတောက် ပစ္စည်းများ စနစ်တကျ စွန့်ပစ်ရေးနှင့် စက်ရုံဧရိယာများ စသည့် အင်္ဂါရပ်များနှင့်အညီ အချိုးအစား မျှတစွာ ဆောင်ရွက်ရန်။ |

| | | | |
|---|---|---|---|
| | | (ဂ) စက်မှုဥယျာဉ်တည်ထောင်ခြင်းသည် ရေရှည်လုပ်ငန်းဖြစ် သဖြင့် ရေ / မီး လိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများမှတစ်ဆင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေကြီး၊ မြေအောက်ရေတို့အား ထိခိုက်မှုမရှိစေရေး အလေးထား ဆောင်ရွက်ရန်၊ မြေအရင်းအမြစ်များ ထိရောက်စွာ စီမံခန့်ခွဲရေးနှင့် မြေနေရာ ပိုင်ဆိုင်မှု ပြဿနာမရှိစေရေးတို့အတွက် သက်ဆိုင်ရာတိုင်းဒေသကြီး မြေအသုံးချမှု စီမံခန့်ခွဲရေး ကော်မတီနှင့် ညှိနှိုင်းစိစစ်ရန်။<br>(ဃ) စက်မှုဥယျာဉ်တည်ထောင်ပြီးပါက တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ ကြီးကြပ် ကွပ်ကဲနိုင်ရန်အတွက် Developer နှင့် ဒေသဆိုင်ရာအာဏာပိုင်များ ပါဝင်သော စီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် စက်မှုလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီသို့ စီမံခန့်ခွဲရေး ကော်မတီ ဖွဲ့စည်းပုံအား ပေးပို့ရန်။ | (ဂ) စက်မှုဥယျာဉ်တည်ထောင်ခြင်းသည် ရေရှည်လုပ်ငန်းဖြစ် သဖြင့် ရေ / မီး လိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများမှတစ်ဆင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေကြီး၊ မြေအောက်ရေတို့အား ထိခိုက်မှုမရှိစေရေး အလေးထား ဆောင်ရွက်ရန်၊ မြေအရင်းအမြစ်များ ထိရောက်စွာ စီမံခန့်ခွဲရေးနှင့် မြေနေရာ ပိုင်ဆိုင်မှု ပြဿနာမရှိစေရေးတို့အတွက် သက်ဆိုင်ရာ တိုင်းဒေသကြီး မြေအသုံးချမှု စီမံခန့်ခွဲရေးကော်မတီနှင့် ညှိနှိုင်းစိစစ်ရန်။<br>(ဃ) စက်မှုဥယျာဉ် တည်ထောင်ပြီးပါက တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ ကြီးကြပ် ကွပ်ကဲနိုင်ရန်အတွက် Developer နှင့် ဒေသဆိုင်ရာအာဏာပိုင်များ ပါဝင်သော စီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် စက်မှုလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီသို့ စီမံခန့်ခွဲရေး ကော်မတီ ဖွဲ့စည်းပုံအား ပေးပို့ရန်။ |
| | ဆောက်လုပ်ရေး ဝန်ကြီးဌာန<br>**(နောက်ဆက်တွဲ-င)** | (က) **လိုက်နာဆောင်ရွက်ရန်**<br>(၁) အဆိုပြု စီမံကိန်း တည်ရှိရာနေရာသည် တောင်ငူမြို့ နှင့် ပတ်ဝန်းကျင်ဒေသ ဖွံ့ဖြိုးရေးအတွက် အထောက်အကူ ဖြစ်နိုင်ပြီး ပုဂ္ဂလိက ဖွံ့ဖြိုးတိုးတက်ရေး နှင့် ဒေသခံ ပြည်သူများအတွက် အကျိုးဖြစ်ထွန်းမှု ဖြစ်နိုင်ချေ ရှိ-မရှိကို ဦးစွာ ဆန်းစစ်ရန်။<br>(၂) စီမံကိန်းမှ ထွက်ရှိလာသော ထုတ်ကုန်ပစ္စည်းများကို သယ်ယူပို့ဆောင်ရေးအတွက် အသုံးပြုမည့်လမ်းသည် ရန်ကုန်-မန္တလေး အမြန်လမ်းမကြီး၏ လမ်းနယ် အကျယ်သည်ပေ ၄၀၀ အတွင်းတွင် ကျရောက်နေမည်ဆိုပါက ၎င်းလမ်းအသုံးပြုခြင်းနှင့် ပတ်သက်၍ အမြန်လမ်းမကြီးများ ဥပဒေနှင့် လိုက်လျောညီထွေမှု ရှိ-မရှိ | (က) **လိုက်နာဆောင်ရွက်ရန်**<br>(၁) အဆိုပြု စီမံကိန်း တည်ရှိရာနေရာသည် တောင်ငူမြို့နှင့် ပတ်ဝန်းကျင်ဒေသ ဖွံ့ဖြိုးရေးအတွက် အထောက်အကူ ဖြစ်နိုင်ပြီး ပုဂ္ဂလိက ဖွံ့ဖြိုးတိုးတက်ရေး နှင့် ဒေသခံ ပြည်သူများအတွက် အကျိုးဖြစ်ထွန်းမှု ဖြစ်နိုင်ချေ ရှိ-မရှိကို ဦးစွာ ဆန်းစစ်ရန်။<br>(၂) စီမံကိန်းမှ ထွက်ရှိလာသော ထုတ်ကုန်ပစ္စည်းများကို သယ်ယူပို့ဆောင်ရေးအတွက် အသုံးပြုမည့်လမ်းသည် ရန်ကုန်-မန္တလေး အမြန်လမ်းမကြီး၏ လမ်း နယ် အကျယ်သည်ပေ ၄၀၀ အတွင်းတွင် ကျရောက်နေမည်ဆိုပါက ၎င်းလမ်း အသုံးပြုခြင်းနှင့် ပတ်သက်၍ အမြန်လမ်းမကြီးများ ဥပဒေနှင့် လိုက်လျောညီထွေမှု ရှိ-မရှိ သက်ဆိုင်ရာ ဌာနများထံမှ သီးခြားခွင့်ပြုချက် |

| | | | |
|---|---|---|---|
| | | သက်ဆိုင်ရာဌာနများထံမှသီးခြားခွင့်ပြုချက်တောင်းခံရန်။<br>(၃) ရန်ကုန် - မန္တလေး လမ်းဟောင်းမှ သွားမည်ဆိုပါက (Under Passed)များရှိသော နေရာနှင့် ဆက်စပ်ဖောက်လုပ်မည့် လမ်းအူကြောင်း၊ လမ်းကြောင်းများ ထပ်မံထည့်သွင်းရေးဆွဲရန်။<br>(၄) စီမံကိန်း ဧရိယာအတွင်းတွင် ဖောက်လုပ်မည့်လမ်းများ၏ လမ်းနယ်အကျယ်သည် ပေ ၆၀ နှင့် ပေ ၈၀ လမ်းများ ဖြစ်ကြောင်းတွေ့ရှိရသဖြင့်စက်ရုံများအတွက် Container ယာဉ်များကို အသုံးပြုမည်ဆိုပါက လမ်းဖွဲ့စည်းပုံများအရ ပေ ၆၀ လမ်းမှ ပေ ၈၀ လမ်းသို့ လည်းကောင်း၊ ပေ ၈၀ လမ်းမှ ပေ ၁၀၀ လမ်းသို့ လည်းကောင်း၊ တိုက်ရိုက်ဖောက်လုပ် ရေးဆွဲရန်နှင့် အဆိုပြုလမ်းများ၏ မြေအသုံးပြုမှုသည် စီမံကိန်း ဧရိယာတစ်ခုလုံး၏ ၂၀% မှ ၃၀% ခန့်ထားရှိရန်။<br>(၅) စီမံကိန်းတစ်ခုလုံးအား နယ်နိမိတ် သတ်မှတ်နိုင်ရန် ခြံစည်းရိုးကာရန် လိုအပ်ကြောင်း တွေ့ရှိရသဖြင့် စီမံကိန်း ဧရိယာတစ်ခုလုံးအား ပတ်လမ်းတစ်ခုကို ထည့်သွင်းရေးဆွဲရန်နှင့် စက်မှုဥယျာဉ်စီမံကိန်း Phase I နှင့် Phase II တို့ကို ဆက်စပ်သော လမ်းမကြီးတစ်ခုကို ဖောက်လုပ်ပေးရန်။<br>(၆) စက်မှုဇုန်မြေကွက်များ အကွက်ချသတ်မှတ်ခြင်းကို 1hector, 2 hector ရှိဧရိယာ အကွက်များဖြင့် စနစ်တကျ အကွက်ချသတ်မှတ်ရန်။<br>(၇) စီမံကိန်းဧရိယာအတွင်းတွင်သတ်မှတ်ထားသော စိမ်းလန်းမြေနှင့် Utilities Areaများကို အခြားမည်သည့် မြေအသုံးပြုမှု အဖြစ်သို့ ပြောင်းလဲအသုံးချခြင်း မပြုရန်။ | တောင်းခံရန်။<br>(၃) ရန်ကုန် - မန္တလေး လမ်းဟောင်းမှ သွားမည်ဆိုပါက (Under Passed)များရှိသော နေရာနှင့် ဆက်စပ်ဖောက်လုပ်မည့် လမ်းအူကြောင်း၊ လမ်းကြောင်းများထပ်မံထည့်သွင်းရေးဆွဲရန်။<br>(၄) စီမံကိန်း ဧရိယာအတွင်းတွင် ဖောက်လုပ်မည့်လမ်းများ၏ လမ်းနယ်အကျယ်သည် ပေ ၆၀ နှင့် ပေ ၈၀ လမ်းများ ဖြစ်ကြောင်း တွေ့ရှိရသဖြင့် စက်ရုံများအတွက် Container ယာဉ်များကို အသုံးပြုမည်ဆိုပါက လမ်းဖွဲ့စည်းပုံများအရ ပေ ၆၀ လမ်းမှ ပေ ၈၀ လမ်းသို့ လည်းကောင်း၊ ပေ ၈၀ လမ်းမှ ပေ ၁၀၀ လမ်းသို့ လည်းကောင်း၊ တိုက်ရိုက်ဖောက်လုပ် ရေးဆွဲရန်နှင့် အဆိုပြုလမ်းများ၏ မြေအသုံးပြုမှုသည် စီမံကိန်း ဧရိယာတစ်ခုလုံး၏ ၂၀% မှ ၃၀% ခန့်ထားရှိရန်။<br>(၅) စီမံကိန်းတစ်ခုလုံးအား နယ်နိမိတ် သတ်မှတ်နိုင်ရန် ခြံစည်းရိုးကာရန် လိုအပ်ကြောင်း တွေ့ရှိရသဖြင့် စီမံကိန်း ဧရိယာတစ်ခုလုံးအား ပတ်လမ်းတစ်ခုကို ထည့်သွင်း ရေးဆွဲရန်နှင့် စက်မှုဥယျာဉ်စီမံကိန်း Phase I နှင့် PhaseII တို့ကို ဆက်စပ်သော လမ်းမကြီးတစ်ခုကို ဖောက်လုပ်ပေးရန်။<br>(၆) စက်မှုဇုန်မြေကွက်များ အကွက်ချ သတ်မှတ်ခြင်းကို 1hector, 2 hector ရှိဧရိယာ အကွက်များဖြင့် စနစ်တကျ အကွက်ချ သတ်မှတ်ရန်။<br>(၇) စီမံကိန်းဧရိယာအတွင်းတွင်သတ်မှတ်ထားသော စိမ်းလန်း မြေနှင့် Utilities Areaများကို အခြား မည်သည့် မြေအသုံးပြုမှု အဖြစ်သို့ ပြောင်းလဲအသုံးချခြင်း မပြုရန်။<br>(၈) စက်မှုဇုန်စီမံကိန်းများ မစတင်မီ Environmental Impact Assessment (EIA)နှင့် Social Impact Assessment |

| | |
|---|---|
| (၈) စက်မှုဇုန် စီမံကိန်းများ မစတင်မီ Environmental Impact Assessment (EIA)နှင့် Social Impact Assessment (SIA)များကို ကြိုတင် လေ့လာ သုံးသပ်ရန်၊ Corporate Social Responsibilities (CSR)ကို နှစ်စဉ် အသားတင်အမြတ်၏ ၂% ခန့် ထားရှိရန်။<br>(၉) အဆိုပြု စီမံကိန်းပုံစံသည် သဘောတရား ပုံစံတစ်ခု အနေဖြင့်သာရှိပြီး အသေးစိတ် ပုံစံများ Master Plan အဆင့်အထိ စနစ်တကျ တိုင်းတာရေးဆွဲပုံစံထုတ်ပြီးမှသာ အခြေခံ အဆောက်အဦဆိုင်ရာ ရေ၊ လျှပ်စစ်မီး စသည် တို့၏ အခြေခံလိုအပ်ချက်ကို သိရှိနိုင်မည်ဖြစ်သဖြင့် ရေရရှိရေးနှင့် လျှပ်စစ်မီး လိုအပ်ချက်များကို လေ့လာ သိရှိပြီးပါက အသုံးပြုမည့် စက်ရုံများ၏ အမျိုးအစား အလိုက် ဇုန်ခွဲခြားသတ်မှတ်ရန်။<br>(၁၀) အဆိုပြု စီမံကိန်း၏ Detail Master Plan ရေးဆွဲ သည့် အခါ လူနေဇုန်အတွင်း လူဦးရေသိပ်သည်းမှု ၁ဧကလျှင် လူဦးရေ ၂၀၀ ထက်မကျော်လွန်စေရ။ | (SIA)များကို ကြိုတင် လေ့လာ သုံးသပ်ရန်၊ Corporate Social Responsibilities (CSR) ကို နှစ်စဉ် အသားတင် အမြတ်၏ ၂% ခန့် ထားရှိရန်။<br>(၉) အဆိုပြုစီမံကိန်းပုံစံသည် သဘောတရား ပုံစံတစ်ခုအနေဖြင့် သာရှိပြီး အသေးစိတ်ပုံစံများ Master Plan အဆင့်အထိ စနစ်တကျ တိုင်းတာရေးဆွဲ ပုံစံထုတ်ပြီးမှသာ အခြေခံ အဆောက်အဦဆိုင်ရာ ရေ၊ လျှပ်စစ်မီး စသည်တို့၏ အခြေခံလိုအပ်ချက်ကို သိရှိနိုင်မည်ဖြစ်သဖြင့် ရေရရှိရေးနှင့် လျှပ်စစ်မီး လိုအပ်ချက်များကို လေ့လာသိရှိပြီးပါက အသုံးပြုမည့် စက်ရုံများ၏ အမျိုးအစားအလိုက် ဇုန်ခွဲခြား သတ်မှတ်ရန်။<br>(၁၀) အဆိုပြု စီမံကိန်း၏ Detail Master Plan ရေးဆွဲ သည့် အခါ လူနေဇုန်အတွင်း လူဦးရေသိပ်သည်းမှု ၁ဧကလျှင် လူဦးရေ ၂၀၀ ထက်မကျော်လွန်စေရ။ |
| (ခ) **လမ်းဖောက်လုပ်မှုနှင့် မြေအသုံးချမှု အကြံပြုချက်များ**<br>(၁) အဆိုပြုစီမံကိန်း ဧရိယာနှင့် ပတ်ဝန်းကျင်အား တိုက်ရိုက်ဆက်စပ်သည့် လမ်းများကို ဖောက်လုပ်သင့်ကြောင်း။<br>(၂) အဆိုပြုလူနေဇုန်စီမံကိန်း ဧရိယာအတွင်းရှိလမ်းများကို ပြန်လည်ပြင်ဆင်ရေးဆွဲ သင့်ကြောင်း။<br>(၃) အဆိုပြု စက်မှုဥယျာဉ် စီမံကိန်း၏ မြေအသုံးချမှုအား အောက်ဖော်ပြပါသတ်မှတ်ချက်များနှင့်အညီဆောင်ရွက်ရန်-<br>(ကက) Building Coverage Ratio (BCR) - ၄၀% မှ ၅၀%<br>(ခခ) Floor Area Ratio (FAR) - ၁.၅ မှ ၂.၅ | (ခ) **လမ်းဖောက်လုပ်မှုနှင့် မြေအသုံးချမှု အကြံပြုချက်များ**<br>(၁) အဆိုပြုစီမံကိန်းဧရိယာ၏ မြောက်ဘက်ရှိ ပိတောက်ကုန်းလမ်းနှင့် တောင်ဘက်ရှိ ဇရပ်ကွင်းလမ်းတို့အား စီမံကိန်းဧရိယာ အတွင်းမှ ဆက်စပ်လာမည့်လမ်းများနှင့် လိုက်လျောညီထွေဖြစ်ရန် အဆင့်မြှင့်တင် ပေးသင့်ကြောင်း။<br>(၂) အဆိုပြုစီမံကိန်းဧရိယာ၏အတွင်းရှိလမ်းများနှင့် (Commercial Area အနီး)မှ ပိတောက်ကုန်းလမ်းနှင့် ဇရပ်ကွင်းလမ်းတို့ကို ဆက်စပ်ဖောက်လုပ်ပေးသင့်ကြောင်း။<br>(၃) အဆိုပြု စက်မှုဥယျာဉ် စီမံကိန်း၏ မြေအသုံးချမှုအား အောက်ဖော်ပြပါသတ်မှတ်ချက်များနှင့်အညီဆောင်ရွက်ရန်- |

| | | | |
|---|---|---|---|
| | | (ဂဂ) လမ်းအသုံးပြုမှု - ၂၀%(အနည်းဆုံး)<br>(ဃဃ) စိမ်းလန်းမြေ - ၅% မှ ၁၀%<br>(ငင) Mix Used (စီးပွားရေးအသုံးပြုမှု) - Total Floor Area၏ ၃၀% မှ ၄၀%<br>(စစ) လူဦးရေသိပ်သည်းမှု - ၂၀၀ဦး/တစ်ဧက (အများဆုံး)<br>(၄) အဆိုပြုစီမံကိန်းအား Concept Plan အဆင့်မှ အခြေခံ အဆောက်အဦ စီမံကိန်းပုံစံ Infrastructure Plan၊ Master Plan နှင့်အကောင်အထည်ဖော်ရန် Detail Plan များကို ဆက်လက်ရေးဆွဲ၍ သက်ဆိုင်ရာ ဌာနအဖွဲ့အစည်းများထံမှ အတည်ပြုချက်ရယူ၍ ဆောင်ရွက်ရန်။<br>(ဂ) **နယ်မြေဒေသဖွံ့ဖြိုးရေးအကြံပြုတင်ပြချက်**<br>(၁) နောင်လာမည့် ၅ နှစ်မှ ၁၀ နှစ်အတွင်း ထူထောင်ရန် လျာထားသည့် မြို့ပြဖွံ့ဖြိုးရေး လုပ်ငန်းများနှင့် စက်မှုဇုန် ထူထောင်ရေး လုပ်ငန်းများသည် အစိုးရ၊ ပုဂ္ဂလိက ရင်းနှီး မြှုပ်နှံသူများနှင့်အများပြည်သူတို့အတွက် ရေရှည်စဉ်ဆက် မပြတ် ဖွံ့ဖြိုးတိုးတက်မှု (Sustainable Development) နှင့် ပတ်ဝန်းကျင် ထိခိုက်မှုမရှိစေဘဲ စီးပွားရေး အကျိုး ရလဒ်ကောင်းများလည်း ရရှိစေရန်အတွက် ကျွမ်းကျင်သူ အတိုင်ပင်ခံ အဖွဲ့အစည်း (Consultant Farm)များဖြင့် Business Plan ကို ဘက်စုံရှုထောင့်စုံမှ ထည့်သွင်း စဉ်းစား၍ အချိန်ယူရေးဆွဲပြီး အဆင့်အလိုက် Phase by Phase အကောင် အထည်ဖော် ဆောင်ရွက်သွားရန် လိုအပ် ကြောင်း။<br>(၂) နယ်မြေဒေသဖွံ့ဖြိုးတိုးတက်ရေးဆိုင်ရာ ရေရှည်ဖွံ့ဖြိုးမှု အစီအမံများချမှတ်၍ ပဏာမ ဖြစ်တန်စွမ်း လေ့လာမှု | (ကက) BuildingCoverage Ratio (BCR) - ၄၀% မှ ၅၀%<br>(ခခ) Floor Area Ratio (FAR) - ၁.၅ မှ ၂.၅<br>(ဂဂ) လမ်းအသုံးပြုမှု - ၂၀%(အနည်းဆုံး)<br>(ဃဃ) စိမ်းလန်းမြေ - ၅% မှ ၁၀%<br>(ငင) Mix Used (စီးပွားရေးအသုံးပြုမှု) - Total Floor Area၏ ၃၀% မှ ၄၀%<br>(စစ) လူဦးရေသိပ်သည်းမှု - ၂၀၀ဦး/တစ်ဧက (အများဆုံး)<br>(၄) အဆိုပြုစီမံကိန်းအား Concept Plan အဆင့်မှ အခြေခံ အဆောက်အဦ စီမံကိန်းပုံစံ Infrastructure Plan၊ Master Plan နှင့်အကောင်အထည်ဖော်ရန် Detail Plan များကို ဆက်လက်ရေးဆွဲ၍ သက်ဆိုင်ရာ ဌာနအဖွဲ့အစည်းများထံမှ အတည်ပြုချက်ရယူ၍ ဆောင်ရွက်ရန်။<br>(ဂ) **နယ်မြေဒေသဖွံ့ဖြိုးရေးအကြံပြုတင်ပြချက်**<br>(၁) နောင်လာမည့် ၅ နှစ်မှ ၁၀ နှစ်အတွင်း ထူထောင်ရန် လျာထားသည့် မြို့ပြဖွံ့ဖြိုးရေး လုပ်ငန်းများနှင့် စက်မှုဇုန်ထူထောင်ရေး လုပ်ငန်းများသည် အစိုးရ၊ ပုဂ္ဂလိက ရင်းနှီး မြှုပ်နှံသူများနှင့် အများပြည်သူတို့အတွက် ရေရှည်စဉ်ဆက်မပြတ် ဖွံ့ဖြိုး တိုးဘက်မှု (Sustainable Development) နှင့် ပတ်ဝန်းကျင် ထိခိုက်မှုမရှိစေဘဲ စီးပွားရေး အကျိုးရလဒ်ကောင်းများလည်း ရရှိစေရန်အတွက် ကျွမ်းကျင်သူ အတိုင်ပင်ခံ အဖွဲ့အစည်း (Consultant Farm)များဖြင့် Business Plan ကို ဘက်စုံ ရှုထောင့်စုံမှ ထည့်သွင်းစဉ်းစား၍ အချိန်ယူရေးဆွဲပြီး အဆင့် အလိုက် Phase by Phase အကောင် အထည်ဖော် ဆောင်ရွက်သွားရန် လိုအပ်ကြောင်း။ |

| | | | |
|---|---|---|---|
| | | အစီရင်ခံစာအရ ဆောင်ရွက်မည့် လူမှုစီးပွား ပတ်ဝန်းကျင်ဆိုင်ရာ၊ မြို့ပြစီမံကိန်းဆိုင်ရာ စီမံကိန်းများအား စနစ်တကျနှင့် နည်းပညာ လိုအပ်ချက်များကိုပါ ထည့်သွင်းတွက်ချက်ရန် စနစ်တကျ ဆောင်ရွက် သင့်ကြောင်း။<br>(၃) မြေအသုံးပြုမှုများတွင် တန်ဖိုးရှိ၍ အစားပြန်လည်မရနိုင်သော အရင်းအမြစ်များ (Non- renewable resources) ဆုံးရှုံးခြင်းမှ ကာကွယ်တားဆီးရန် လိုအပ်ကြောင်း။<br>(၄) ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ခိုင်မာသော အဖွဲ့အစည်း အုပ်ချုပ်မှုစနစ်ကို ထူထောင်၍ စနစ်တကျ စီမံခန့်ခွဲခြင်းဖြင့် ရေရှည်စဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု (Sustainable Development) ရရှိစေမည်ဖြစ်ပါကြောင်း။<br>(၅) အနာဂတ်တွင် ဆောင်ရွက်မည့် မြို့ပြဖွံ့ဖြိုးရေး အစီအစဉ်များကို Green City and Green Growth Concept ဖြင့် စီမံကိန်းများရေးဆွဲခြင်း၊ ပွင့်လင်းမြင်သာစွာဖြင့် အကောင်အထည်ဖော်မှု အစီအစဉ်များ ဆောင်ရွက်ခြင်းတို့ဖြင့် နိုင်ငံတကာ အဆင့်မီ ဆောင်ရွက်သွားသင့်ကြောင်း။ | (၂) နယ်မြေဒေသ ဖွံ့ဖြိုးတိုးတက်ရေးဆိုင်ရာ ရေရှည်ဖွံ့ဖြိုးမှု အစီအမံများချမှတ်၍ ပဏာမဖြစ်တန်စွမ်း လေ့လာမှု အစီရင်ခံစာအရ ဆောင်ရွက်မည့် လူမှုစီးပွား ပတ်ဝန်းကျင်ဆိုင်ရာ၊ မြို့ပြစီမံကိန်းဆိုင်ရာ စီမံကိန်းများအား စနစ်တကျနှင့် နည်းပညာ လိုအပ်ချက်များကိုပါ ထည့်သွင်း တွက်ချက်ရန် စနစ်တကျ ဆောင်ရွက်သင့်ကြောင်း။<br>(၃) မြေအသုံးပြုမှုများတွင် တန်ဖိုးရှိ၍ အစားပြန်လည်မရနိုင်သော အရင်းအမြစ်များ (Non- renewable resources) ဆုံးရှုံးခြင်းမှ ကာကွယ်တားဆီးရန် လိုအပ် ကြောင်း။<br>(၄) ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ခိုင်မာသော အဖွဲ့အစည်း အုပ်ချုပ်မှုစနစ်ကို ထူထောင်၍ စနစ်တကျ စီမံခန့်ခွဲခြင်းဖြင့် ရေရှည်စဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု (Sustainable Development) ရရှိစေမည် ဖြစ်ပါကြောင်း။<br>(၅) အနာဂတ်တွင် ဆောင်ရွက်မည့် မြို့ပြဖွံ့ဖြိုးရေး အစီအစဉ်များကို Green City and Green Growth Concept ဖြင့် စီမံကိန်းများရေးဆွဲခြင်း၊ ပွင့်လင်းမြင်သာစွာဖြင့် အကောင်အထည်ဖော်မှု အစီအစဉ်များ ဆောင်ရွက်ခြင်းတို့ဖြင့် နိုင်ငံတကာ အဆင့်မီ ဆောင်ရွက်သွားသင့်ကြောင်း။ |
| | လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန **(နောက်ဆက်တွဲ-စ)** | (၁) အဆိုပြုဧရိယာများသည် ဆည်များ၏အောက်ပိုင်း လက်ရှိမြို့ရွာများ နှင့် တစ်ဆက်တစ်စပ်တည်း ဖြစ်ခြင်းကြောင့် ရေဝေရေလဲ ဧရိယာများ မပါဝင်ပါကြောင်း။<br>(၂) အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်ပါကြောင်း။<br>(၃) မြေနှင့်ပတ်သက်၍ ပြည်ထောင်စု အစိုးရအဖွဲ့၊ မြေအသုံးချမှု စီမံခန့်ခွဲရေး ဗဟိုကော်မတီတို့၏ စီစစ်ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ထားခြင်းဖြစ်ပါကြောင်း။ | (၁) အဆိုပြုဧရိယာများသည် ဆည်များ၏အောက်ပိုင်း လက်ရှိမြို့ရွာများနှင့် တစ်ဆက်တစ်စပ်တည်း ဖြစ်ခြင်းကြောင့် ရေဝေရေလဲ ဧရိယာများ မပါဝင်ပါကြောင်း။<br>(၂) အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန် သင့်လျော်ပါကြောင်း။<br>(၃) မြေနှင့်ပတ်သက်၍ ပြည်ထောင်စု အစိုးရအဖွဲ့၊ မြေအသုံးချမှု စီမံခန့်ခွဲရေး ဗဟိုကော်မတီတို့၏ စီစစ်ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ထားခြင်းဖြစ်ပါကြောင်း။ |

| | | | |
|---|---|---|---|
| ၁၉။ | အခြားတင်ပြချက်များ | - (က) အဆိုပြုလုပ်ငန်းအတွက် လျာထားမြေ ၁၃၁၁ ဧက ဖြစ်ကြောင်း၊ လမ်းဖောက်လုပ်မှုအတွက် ပေ ၁၀၀ Main Road (၁)လမ်းနှင့် ပေ ၆၀ အရှည် Secondary Road (၃)လမ်းဖြင့် လမ်းဖောက်လုပ် ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ရေရယူမှုနှင့် စပ်လျဉ်း၍ မြေအောက်ရေကို အဓိကထားပြီး အသုံးပြုမည်ဖြစ်ပါကြောင်း၊ ရေကန်များ၊ ဆည်အသေးစားများတည်ဆောက်၍ ရေသိုလှောင်ခြင်းဖြင့် အသုံးပြုမည်ဖြစ်ပါကြောင်း၊ စက်ရုံအလုပ်ရုံမှ စွန့်ထုတ်သော ရေဆိုးရေညစ်များကို သန့်စင်ပြီး ချောင်း၊ ကန်၊ မြစ်များထဲသို့ ပြန်လည် ထုတ်လွှတ်မည်ဖြစ်ပါကြောင်း၊ စီမံကိန်းဧရိယာအတွင်း ရေဆိုး ရေညစ်များကို စွန့်ပစ်နိုင်ရန်အတွက် ရေကန်ကြီးများ တူးဖော်၍ အဆင့်ဆင့် ရေသန့်စင်ခြင်း လုပ်ငန်းဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ဆက်သွယ်ရေးအတွက် ရေဒီယို၊ တယ်လီဖုန်း၊ ကြေးနန်းရုံးခွဲစသည်တို့ကို တည်ဆောက်၍ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆိုပြုလုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အား ၈၀ မဂ္ဂါဝပ် လိုအပ်ကြောင်းနှင့် မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း၊ အုတ်တွင်းမြို့နယ်၊ ဟင်းငုတ်ပင် ဓါတ်အားခွဲရုံမှတစ်ဆင့် ဓါတ်အား ရယူမည်ဖြစ်ကြောင်းနှင့် ဖိနပ်စက်ရုံ၊ ဆေးဝါးစက်ရုံ အစရှိသော လုပ်ငန်းများ ဝင်ရောက်လာမည်ဟုမျှော်လင့်ပါကြောင်း တင်ပြထား ပါသည်။<br>(ခ) မြေအသုံးချမှုပုံစံတွင် စက်မှုဇုန် ၄၃.၂၆% ၊ ထောက်ပို့ဇုန် ၅% ၊ စီးပွား ရေးဇုန် ၄.၃၃%၊ အိမ်ရာ ၅.၄၁%၊ လမ်းဧရိယာ ၂၅%၊ စီမံခန့်ခွဲရေးဇုန် ၅%၊ စိမ်းလန်းဇုန် ၇%၊ စည်ပင်သာယာရေးဇုန် ၅% အသုံးပြုရန် စီမံထားကြောင်း နှင့် စီမံကိန်းဧရိယာတွင် လမ်းဖောက်လုပ်ခြင်း၊ လျှပ်စစ်မီး၊ ရေရရှိရေး၊ ရေဆိုးသန့်စင်စနစ်များ ဆောင်ရွက်ခြင်းစသည့် အခြေခံအဆောက်အအုံ လိုအပ်ချက်များ ပြည့်စုံအောင် ဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ | |

နောက်ဆက်တွဲ-က



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့

စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ (၃၄၆)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တင်ပြခြင်းကိစ္စ**

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ တောင်ငူမြို့နယ်၊ ပဲချက်ကုန်းကျေးရွာအုပ်စု အမှတ်(၆)၊ ကွင်းအမှတ် ၅၈၁-တောင်ကြီးတက်ကွင်း၌ တည်ရှိသောမြေဧရိယာ (၁၃၁၁) ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းအား အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ တင်ပြလာမှုနှင့်ပတ်သက်၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ သဘောထားမှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) စက်မှုဥယျာဉ်စီမံကိန်းပြုလုပ်မည့် မြေဧရိယာ (၁၃၁၁) ဧကသည် တောင်ငူမြို့၊ မြို့ပြစီမံကိန်း၏ တစ်စိပ်တစ်ဒေသဖြစ်ကြောင်း၊

(ခ) ပြည်သူတို့၏လူမှုစီးပွားကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(ဂ) အဆိုပါစက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းအား အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ဆက်စပ်လုပ်ငန်းနယ်ပယ်များအတွင်း အလုပ်အကိုင်နေရာသစ်များ ဖန်တီးပေးနိုင်မည်ဖြစ်ကာ မြို့နယ်အတွင်းရှိ ဒေသခံပြည်သူများအနေဖြင့် အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုမှ ကင်းဝေးပါကြောင်း၊

(ဃ) ဖော်ပြပါ စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း ဆောင်ရွက်နိုင်ခြင်း ရှိပါကြောင်း၊

(င) စက်မှုဥယျာဉ်စီမံကိန်းပြုလုပ်မည့်မြေနေရာသည် မြေဧရိယာ(၁၃၁၁) ဧကရှိ မြေနေရာဖြစ်ပြီး တောင်ငူမြို့၊ မြို့ပြစီမံကိန်း၏ တစ်စိပ်တစ်ဒေသဖြစ်သည့်အပြင် မြို့နယ်အတွင်းရှိ ပြည်သူများအနေဖြင့် အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေသောကြောင့် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း၊

၂။ သို့ဖြစ်ပါ၍ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ မြေဧရိယာ(၁၃၁၁) ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

(ဉာဏ်ဝင်း)
ဝန်ကြီးချုပ်

မိတ္တူ-

ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

TZNL(Head Office)-61

ကော်ဆာကော်ပြေ ဂ (၇၀)




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ပဲခူးမြို့**

စာအမှတ်၊ ၈ / ၁ - ၁၂ / ဦး ၈ (၃၄၅)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တင်ပြခြင်းကိစ္စ**

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု(အုပ်စုအမှတ်၂)၊ ကွင်းအမှတ် ၅၉၉/ဂ၊ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းဘဲစာကွင်း၊ ၆၀၀-ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆- ကံယောကွင်း၌ တည်ရှိသောမြေဧရိယာ (၂၃၅.၅၄) ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းအား အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရန် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ တင်ပြလာမှုနှင့်ပတ်သက်၍ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ သဘောထားမှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) စက်မှုဥယျာဉ်စီမံကိန်းပြုလုပ်မည့် မြေဧရိယာ(၂၃၅.၅၄)ဧကသည် တောင်ငူမြို့၊ မြို့ပြစီမံကိန်း၏ တစ်စိတ်တစ်ဒေသဖြစ်ကြောင်း၊

(ခ) ပြည်သူတို့၏လူမှုစီးပွားကို ထိခိုက်နိုင်ခြင်း မရှိပါကြောင်း၊

(ဂ) အဆိုပါစက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းအား အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ဆက်စပ်လုပ်ငန်းနယ်ပယ်များအတွင်း အလုပ်အကိုင်နေရာသစ်များ ဖန်တီးပေးနိုင်မည်ဖြစ်ကာ မြို့နယ်အတွင်းရှိ ဒေသခံပြည်သူများအနေဖြင့် အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုမှ ကင်းဝေးပါကြောင်း၊

(ဃ) ဖော်ပြပါ စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း ဆောင်ရွက်မည့်မြေနေရာတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း ဆောင်ရွက်နိုင်ခြင်း ရှိပါကြောင်း၊

(င) စက်မှုဥယျာဉ်စီမံကိန်းပြုလုပ်မည့်မြေနေရာသည် မြေဧရိယာ (၂၃၅.၅၄) ဧကရှိ မြေနေရာဖြစ်ပြီး တောင်ငူမြို့၊ မြို့ပြစီမံကိန်း၏ တစ်စိတ်တစ်ဒေသဖြစ်သည့်အပြင် မြို့နယ်အတွင်းရှိ ပြည်သူများအနေဖြင့် အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွား ရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေသောကြောင့် စက်မှုဥယျာဉ် စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုသင့်ပါကြောင်း၊

၂။ သို့ဖြစ်ပါ၍ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ မြေဧရိယာ(၂၃၅.၅၄) ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

(ဉာဏ်ဝင်း)
ဝန်ကြီးချုပ်

မိတ္တူ

ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ



နောက်ဆက်တွဲ-ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**ကာကွယ်ရေးဝန်ကြီးဌာန**

**ဝန်ကြီးရုံး**

စာအမှတ်၊ ၁၁/ ၁၉ဗ(အုပ်ချုပ်ရေး)/ကကန

ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ၂၂ ရက်

သို့

ဥက္ကဋ္ဌ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရကာ - ၄ / မ - ၁၅၂၆ / ၂၀၁၆ (၂၃၅)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇-၂-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရကာ - ၄ / မ - ၁၅၂၇/ ၂၀၁၆ (၂၄၇)

Kaytumadi Development Public Co.,Ltd.မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု(အုပ်စုအမှတ်-၂)၊ ကွင်းအမှတ် ၅၉၉/ဂ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းဘဲစာကွင်း၊ ၆၁၀ - ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆-ကံဧရိယာကွင်းရှိ မြေဧရိယာ (၂၃၅.၅၄) ဧကတွင် လည်းကောင်း၊ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ ပဲချက်ကုန်းကျေးရွာအုပ်စု အမှတ်( ၆ )၊ ကွင်းအမှတ် - ၅၈၁ ၊ တောင်ကြီးတက်ကွင်းရှိ မြေဧရိယာ (၁၃၁၁)ဧကတွင် လည်းကောင်း စက်မှုဥယျာဉ်စီမံကိန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ရည်ညွှန်းပါစာများဖြင့် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

( ဗိုလ်မှူးချုပ် စန်းဝင်း၊ အမြဲတမ်းအတွင်းဝန် )

**မိတ္တူကို**

စစ်ထောက်ချုပ်ရုံး

ရုံးလက်ခံ/မျှောစာ

နောက်ဆက်တွဲ-ဂ




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/MIC(OSS)/ECD/၀၁(၄၄/၁၈)
ရက် စွဲ ၊၂၀၁၆ခုနှစ် မတ် လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Kaytumadi Development Public Co.,Ltd မှ စက်မှုဥယျာဉ်စီမံကိန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၂၆/ ၂၀၁၆(၂၁၄-က)

၁။ Kaytumadi Development Public Co.,Ltd မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ ပဲချက်ကုန်းကျေးရွာအုပ်စု၊ အမှတ်(၆)၊ ကွင်းအမှတ်-၅၈၁၊ တောင်ကြီးတက်ကွင်းရှိ မြေဧရိယာ ၁၃၁၁ဧကတွင်စက်မှုဥယျာဉ်စီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးပါရန်ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း၊ ဖော်ထုတ်မည့်မြေအမျိုးအစားများမှာ Residence Land, Commercial Land, Industrial Land, Logistic Land, Public Administration Land, Transportational Land, Green Space, Water Area တို့ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးစီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)ကိုလူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု(Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်( **Environmental Management Plan – EMP** )အား ရေးဆွဲ၍ပူးတွဲတင်ပြ

ထားကြောင်းတွေ့ရှိရပါသည်။

၃။ Kaytumadi Development Public Co.,Ltd မှ စက်မှုဥယျာဉ်စီမံကိန်းများဆောင်ရွက်ခြင်းလုပ်ငန်းများကြောင့် မြေသားပြုပြင်ဖော်ထုတ်ရာမှထွက်ရှိလာမည့် အမှုန်အမွှား၊ ဖုန်မှုန့်များကြောင့်လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းသုံးစက်များ၊ ယာဉ်များနှင့် ယာဉ်ယန္တရားများ၏ ဆူညံသံကြောင့် အသံညစ်ညမ်းခြင်း၊ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်၊ စက်မောင်းဆီနှင့်အခြား စက်ဆီချောဆီများကြောင့် ပတ်ဝန်းကျင်မြေထုနှင့်ရေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊ မီးဘေးအန္တရာယ်ဖြစ်ပေါ်နိုင်ခြင်း၊ အလုပ်သမားများ၏စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထုညစ်ညမ်းခြင်း ၊ စီမံကိန်းလုပ်ငန်းများကြောင့် ရှေးဟောင်းအမွေအနှစ်ဘာသာရေးအဆောက်အအုံများ ထိခိုက်စေနိုင်ခြင်း၊ အများပြည်သူများ၏ ဥယျာဉ်သီးနှံလယ်ယာမြေများအား ထိခိုက်ပျက်စီးစေနိုင်ခြင်း စသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Kaytumadi Development Public Co.,Ltd မှ စက်မှုဥယျာဉ်စီမံကိန်းများဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility-CSR )အတွက် အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment – EIA ) ကိုဆောင်ရွက်ပြီး အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/၀၁(၈၂၁၄)
ရက် စွဲ ၊ ၂၀၁၆ခုနှစ် မတ် လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Kaytumadi Development Public Co.,Ltd မှ စက်မှုဥယျာဉ်စီမံကိန်းကို ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၅-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၂၇/ ၂၀၁၆(၂၁၈-ဃ)

၁။ Kaytumadi Development Public Co.,Ltd မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု(အုပ်စုအမှတ်-၂)၊ ကွင်းအမှတ်-၅၉၈/ဂ၊ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းစာဘဲကွင်း၊ ၆၀၀-ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆-ကံဇယောကွင်းရှိ မြေ ၂၃၅.၅၄ဧကအကျယ်အဝန်းတွင် စက်မှုဥယျာဉ်စီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၃)နှစ်ဖြစ်ကြောင်း၊ ဖော်ထုတ်မည့်မြေအမျိုးအစားများမှာ Residence Land, Commercial Land, Industrial Land, Logistic Land, Public Administration Land, Transportational Land, Green Space, Water Area တို့ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့်သက်သာချောင်ချိရေးစီမံချက်၊ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်တားဆီးရေးစီမံချက်များကိုလည်းထားရှိ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%)ကိုလူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု(Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ပတ်ဝန်းကျင်စီမံခန့်ခွဲ

မှုအစီအစဉ်( Environmental Management Plan – EMP )အား ရေးဆွဲ၍ပူးတွဲတင်ပြထားကြောင်းတွေ့ရှိရပါသည်။

၃။ Kaytumadi Development Public Co.,Ltd မှ စက်မှုဥယျာဉ်စီမံကိန်းများဆောင်ရွက်ခြင်းလုပ်ငန်းများကြောင့် မြေသားပြုပြင်ဖော်ထုတ်ရာမှထွက်ရှိလာမည့် အမှုန်အမွှား၊ ဖုန်မှုန့်များကြောင့်လေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းသုံးစက်များ၊ ယာဉ်များနှင့် ယာဉ်ယန္တရားများ၏ဆူညံသံကြောင့် အသံညစ်ညမ်းခြင်း၊ စွန့်ပစ်အမဲဆီ၊ အင်ဂျင်ဝိုင်၊ စက်မောင်းဆီနှင့်အခြား စက်ဆီချောဆီများကြောင့် ပတ်ဝန်းကျင်မြေထုနှင့်ရေထုညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ မီးဘေးအန္တရာယ်ဖြစ်ပေါ်နိုင်ခြင်း၊ အလုပ်သမားများ၏စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ရေထု၊ လေထု၊ မြေထုညစ်ညမ်းခြင်း၊ စီမံကိန်းလုပ်ငန်းများကြောင့် ရှေးဟောင်းအမွေအနှစ်ဘာသာရေးအဆောက်အအုံများ ထိခိုက်စေနိုင်ခြင်း၊ အများပြည်သူများ၏ ဥယျာဉ်သီးနှံလယ်ယာမြေများအား ထိခိုက်ပျက်စီးစေနိုင်ခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Kaytumadi Development Public Co.,Ltd မှ စက်မှုဥယျာဉ်စီမံကိန်းများဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility-CSR )အတွက် အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအားလိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment – EIA ) ကိုဆောင်ရွက်ပြီးအစီ

ရင်ခံစာရေးသားတင်ပြရန်။

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး (ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ-ယ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၄၂၇၁)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၂၆/၂၀၁၆(၂၃၃)

၁။ Kaytumadi Development Public Co.,Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ ပဲချက်ကုန်းကျေးရွာအုပ်စုအမှတ်(၆)၊ ကွင်းအမှတ်(၅၈၁)၊ တောင်ကြီးတက်ကွင်းရှိ မြေ(၁၃၁၁)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း လုပ်ကိုင်လိုခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) စီမံကိန်းတည်ဆောက်မည့် စက်မှုလုပ်ငန်းများ၏ လုပ်ငန်းအမျိုးအစားများ ဖော်ပြရန် လိုအပ်ပါသည်။

(ခ) မြေအသုံးချရေးမူဝါဒအရ စက်မှုဥယျာဉ်မြို့တော် ထူထောင်ရာတွင် လမ်း+Open Space၊ ဆေးရုံ(သို့)ဆေးခန်း၊ အုပ်ချုပ်ရေးရုံး၊ မီးသတ်ဌာန၊ သစ်ပင်ပန်းခြံဧရိယာ၊ စက်မှုလုပ်ငန်းသုံးအဆိပ်အတောက်ပစ္စည်းများ စနစ်တကျစွန့်ပစ်ရေးနှင့် စက်ရုံဧရိယာများ စသည့် အင်္ဂါရပ်များနှင့်အညီ အချိုးအစားမျှတစွာ ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

(ဂ) စက်မှုဥယျာဉ်တည်ထောင်ခြင်းသည် ရေရှည်လုပ်ငန်းဖြစ်သဖြင့် ရေ/မီး လိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများမှတစ်ဆင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေကြီး၊ မြေအောက်ရေတို့အား ထိခိုက်မှု မရှိစေရေး အလေးထား ဆောင်ရွက်ရန်၊ မြေအရင်းအမြစ်များ ထိရောက်စွာ စီမံခန့်ခွဲရေး

နှင့် မြေနေရာပိုင်ဆိုင်မှုပြဿနာမရှိစေရေးတို့အတွက် သက်ဆိုင်ရာတိုင်းဒေသကြီး မြေအသုံးချမှုစီမံခန့်ခွဲရေးကော်မတီနှင့် ညှိနှိုင်းစိစစ်ရန် လိုအပ်ပါသည်။

(ဃ) စက်မှုဥယျာဉ်တည်ထောင်ပြီးပါက တည်ဆဲဥပဒေစည်းမျဉ်းနှင့်အညီ ကြီးကြပ်ကွပ်ကဲနိုင်ရန်အတွက် Developer နှင့် ဒေသဆိုင်ရာအာဏာပိုင်များ ပါဝင်သော စီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာတိုင်းဒေသကြီး၊ အစိုးရအဖွဲ့မှတစ်ဆင့် စက်မှုလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီသို့ စီမံခန့်ခွဲရေးကော်မတီဖွဲ့စည်းပုံအား ပေးပို့ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Kaytumadi Development Public Co.,Ltd. မှ မြေ(၁၃၁၁)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လိုခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါအချက်များအား လိုက်နာဆောင်ရွက်ပြီး မြေနေရာပိုင်ဆိုင်မှုပြဿနာမရှိဘဲ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၅.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီ

| နောက်ဆက်တွဲ- |



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၄၂၆၃)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၇.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၄/မ-၁၅၂၇/၂၀၁၆(၂၄၄)

၁။ Kaytumadi Development Public Co.,Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု(အုပ်စုအမှတ်-၂)၊ ကွင်းအမှတ်(၅၉၉/ဂ)၊ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းဘဲစာကွင်း၊ ၆၀၀-ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆-ကံ ဖယာကွင်းရှိ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း လုပ်ကိုင်လိုခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) စီမံကိန်းတည်ဆောက်မည့် စက်မှုလုပ်ငန်းများ၏ လုပ်ငန်းအမျိုးအစားများ ဖော်ပြရန် လိုအပ်ပါသည်။

(ခ) မြေအသုံးချရေးမူဝါဒအရ စက်မှုဥယျာဉ်မြို့တော် ထူထောင်ရာတွင် လမ်း+ Open Space၊ ဆေးရုံ(သို့)ဆေးခန်း၊ အုပ်ချုပ်ရေးရုံး၊ မီးသတ်ဌာန၊ သစ်ပင်ပန်းခြံဧရိယာ၊ စက်မှုလုပ်ငန်းသုံးအဆိပ်အတောက်ပစ္စည်းများ စနစ်တကျ စွန့်ပစ်ရေးနှင့် စက်ရုံဧရိယာများ စသည့် အင်္ဂါရပ်များနှင့်အညီ အချိုးအစား မျှတစွာ ဆောင်ရွက်သွားရန် လိုအပ်ပါသည်။

(ဂ) စက်မှုဥယျာဉ်တည်ထောင်ခြင်းသည် ရေရှည်လုပ်ငန်းဖြစ်သဖြင့် ရေ/မီး လိုအပ်ချက်အား ဖြည့်ဆည်းဆောင်ရွက်ရန်၊ စွန့်ပစ်ပစ္စည်းများ၊ ရေဆိုးများမှတစ်ဆင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေကြီး၊ မြေအောက်ရေတို့အား ထိခိုက်မှု မရှိစေရေး အလေးထား ဆောင်ရွက်ရန်၊ မြေအရင်းအမြစ်များ ထိရောက်စွာ စီမံခန့်ခွဲရေး

နှင့် မြေနေရာပိုင်ဆိုင်မှုပြဿနာမရှိစေရေးတို့အတွက် သက်ဆိုင်ရာတိုင်းဒေသကြီး မြေအသုံးချမှုစီမံခန့်ခွဲရေးကော်မတီနှင့် ညှိနှိုင်းစိစစ်ရန် လိုအပ်ပါသည်။

(ဃ) စက်မှုဥယျာဉ်တည်ထောင်ပြီးပါက တည်ဆဲဥပဒေစည်းမျဉ်းနှင့်အညီ ကြီးကြပ်ကွပ်ကဲနိုင်ရန်အတွက် Developer နှင့် ဒေသဆိုင်ရာအာဏာပိုင်များ ပါဝင်သော စီမံခန့်ခွဲရေးကော်မတီကို ဖွဲ့စည်းဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာတိုင်းဒေသကြီး၊ အစိုးရအဖွဲ့မှတစ်ဆင့် စက်မှုလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီသို့ စီမံခန့်ခွဲရေးကော်မတီဖွဲ့စည်းပုံအား ပေးပို့ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Kaytumadi Development Public Co.,Ltd. မှ မြေ(၂၃၅.၅၄)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လိုခြင်းနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါ အချက်များအား လိုက်နာဆောင်ရွက်ပြီး မြေနေရာပိုင်ဆိုင်မှုပြဿနာမရှိဘဲ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၅.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
စက်မှုလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးကော်မတီ



ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

ဝန်ကြီးရုံး

နေပြည်တော်

စာအမှတ်၊ ၂၁/ဌာနခွဲ -၂/MIC/၂၀၁၆(စီ၄၃၀)

ရက် စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၅ ရက်

IPT-849
14/3/2016

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

613-588
16/3

အကြောင်းအရာ။ **ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်ဆိုင်သော ကုမ္ပဏီလီမိတက် ၏ အဆိုပြု စီမံကိန်းများအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ (၁၇) ရက်နေ့စွဲတူစာအမှတ် ၊ ရက-၄/မ-၁၅၂၆/၂၀၁၆(၂၃၄) ၊ ရက-၄/မ-၁၅၂၇/၂၀၁၆(၂၄၅)

(၂) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီ လ (၂၄) ရက်နေ့စွဲတူ စာအမှတ်၊ ၈/၁-၂/ဦး၈(၀၄၁) နှင့် (၀၄၂)

၁။ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ် နေပူကုန်းကျေးရွာအုပ်စု အမှတ်(၂)ရှိ မြေဧက(၂၃၅.၅၄)ဧက နှင့် ပဲချက်ကုန်းကျေးရွာအုပ်စု ရန်ကုန် - မန္တလေး အမြန်လမ်း မိုင်တိုင် (၁၅၂)အနီးတို့တွင် စက်မှုဥယျာဉ်စီမံကိန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း နှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့တို့မှ ရည်ညွှန်းချက်ပါစာများဖြင့် တောင်းခံလာပါသည်။

၂။ တင်ပြလာသည့် စီမံကိန်းများ၏ အဆိုပြုစီမံကိန်းပုံစံများအား စိစစ်လေ့လာ၍ တွေ့ရှိချက်များအားဒေသ၏လက်ရှိအခြေအနေ ၊ နောင်တွင်ဖြစ်ပေါ်လာမည့် ဖွံ့ဖြိုးတိုးတက်မှု အလားအလာ ၊ တည်ရှိနေသောအရင်းအမြစ်များနှင့် လိုက်လျောညီထွေမှု ရှိ/မရှိ ကို လေ့လာဆန်းစစ်ခဲ့ရာ အောက်ပါအတိုင်းတွေ့ရှိရပါသည် -

(က) အဆိုပြုစီမံကိန်းများ တည်ရှိရာနေရာသည် တောင်ငူမြို့ နှင့် ပတ်ဝန်းကျင်ဒေသ ဖွံ့ဖြိုးရေးအတွက် အထောက်အကူဖြစ်နိုင်ပြီး ပုဂ္ဂလိကကဏ္ဍဖွံ့ဖြိုးတိုးတက်ရေး နှင့် ဒေသခံပြည်သူ များအတွက် အကျိုးဖြစ်ထွန်းမှု ဖြစ်နိုင်ချေ ရှိ / မရှိကို ဦးစွာ ဆန်းစစ်ရန်လိုအပ်မည် ဖြစ်ပါသည်။

ကန့်သတ်

(ခ) ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနမှ တောင်ငူမြို့ မြို့ပြဖွံ့ဖြိုးရေး စီမံကိန်းရေးဆွဲ ဆောင်ရွက်ခဲ့ရာတွင် လေ့လာတွေ့ရှိခဲ့ရသည့် ကေတုမတီမြို့သစ်အနီး ရန်ကုန် - မန္တလေးလမ်းဟောင်း ပတ်ဝန်းကျင်တွင် လက်ရှိ ဆောင်ရွက်နေသောစက်မှုဇုန်နှင့် တစ်ဆက်တစ်စပ်တည်း အကောင်အထည် ဖော်ပါက အကျိုးဖြစ်ထွန်းနိုင်မှု ပိုမိုရရှိနိုင်ကြောင်းတွေ့ရှိရပါသည်။

(ဂ) ယခုအဆိုပြုစီမံကိန်း တည်နေရာသည် ရန်ကုန် - မန္တလေးအမြန်လမ်းမကြီး အနောက်ဘက်တွင်တည်ရှိပြီး စီမံကိန်းနှင့် ဆက်စပ်သွားလာမည့်လမ်းကို အမြန် လမ်းမကြီးနှင့် တိုက်ရိုက်ဆက်စပ် ဖောက်လုပ်ထားသည်ကို တွေ့ရှိရပါသည်။ စီမံကိန်းမှ ထွက်ရှိလာသောထုတ်ကုန် ပစ္စည်းများကို သယ်ယူပို့ဆောင်ရေး အတွက် အသုံးပြုမည့်လမ်းသည် ရန်ကုန် - မန္တလေး အမြန်လမ်းမကြီး၏ လမ်းနယ် အကျယ်သည် ပေ(၄၀၀)အတွင်းတွင် ကျရောက်နေမည်ဆိုပါက ၎င်းလမ်းအသုံး ပြုခြင်းနှင့် ပတ်သက်၍ အမြန်လမ်းမကြီးများဥပဒေနှင့် လိုက်လျောညီထွေမှု ရှိ/မရှိ သက်ဆိုင်ရာဌာနများထံမှ သီးခြားခွင့်ပြုချက် တောင်းခံရန် လိုအပ်မည် ဖြစ်ပါသည်။

(ဃ) ရန်ကုန်-မန္တလေး လမ်းဟောင်းမှသွားမည်ဆိုပါက (Under Passed) များရှိသော နေရာ နှင့် ဆက်စပ်ဖောက်လုပ်မည့် လမ်းအူကြောင်း ၊ လမ်းကြောင်းများ ထပ်မံထည့်သွင်းရေးဆွဲရန် လိုအပ်မည်ဖြစ်ပါသည်။စီမံကိန်းဧရိယာအတွင်းတွင် ဖောက်လုပ်မည့်လမ်းများ၏ လမ်းနယ်အကျယ်သည် (၆၀)ပေ နှင့် (၈၀)ပေ လမ်းများဖြစ်ကြောင်း တွေ့ရှိရပါသည်။စက်ရုံများအတွက် Container ယာဥ်များ ကို အသုံးပြုမည်ဆိုပါက လမ်းဖွဲ့စည်းပုံများအရ (၆၀)ပေလမ်း မှ (၈၀)ပေ လမ်းသို့ လည်းကောင်း ၊ (၈၀)ပေလမ်းမှ (၁၀၀)ပေလမ်းသို့ လည်းကောင်း တိုက်ရိုက်ဖောက်လုပ် ရေးဆွဲသင့်ပါသည်။ အဆိုပြုလမ်းများ၏ မြေအသုံးပြုမှု သည် စီမံကိန်းဧရိယာတစ်ခုလုံး၏ (၂၀)% မှ (၃၀)% ခန့် ထားရှိရပါမည်။

(င) တင်ပြလာသောအဆိုပြုပုံစံတွင် စီမံကိန်းတစ်ခုလုံးအား နယ်နိမိတ်သတ်မှတ်နိုင် ရန် ခြံစည်းရိုးကာရန် လိုအပ်မည့် အခြေအနေကိုတွေ့ရှိရပါသည်။ သို့ဖြစ်ပါ၍ စီမံကိန်း ဧရိယာတစ်ခုလုံးအား ပတ်လမ်းတစ်ခုကို ထည့်သွင်းရေးဆွဲပြီး စဥ်းစား ပါက ပိုမိုဆီလျော် နိုင်ကြောင်းတွေ့ရှိရပါသည်။ စက်မှုဥယျာဥ် စီမံကိန်း( Phase - I ) နှင့် (Phase - II ) တို့ကိုဆက်စပ်သောလမ်းမကြီးတစ်ခု ဖောက်လုပ်ပေးရန် လိုအပ် ကြောင်းတွေ့ရှိရပါသည်။

(စ) စက်မှုဇုန်မြေကွက်များ အကွက်ချသတ်မှတ်ခြင်းကို ( 1 hector, 2 hector )ရှိ ဧရိယာ အကွက်များ စသည်ဖြင့် စနစ်တကျအကွက်ချ သတ်မှတ်သင့်ပါသည်။

(ဆ) စီမံကိန်းဧရိယာအတွင်းတွင် သတ်မှတ်ထားသော စိမ်းလန်းမြေနှင့် Utilities Area များကို အခြားမည်သည့် မြေအသုံးပြုမှုအဖြစ်သို့ ပြောင်းလဲအသုံးချခြင်း မပြုရန် လိုအပ်မည် ဖြစ်ပါသည်။

(ဇ) စက်မှုဇုန်စီမံကိန်းများ မစတင်မီ Environmental Impact Assessment ( EIA) နှင့် Social Impact Assessment(SIA)များကို ကြိုတင်လေ့လာ သုံးသပ်ထား သင့်ပါသည်။ Cooperative Social Responsibilities ( CSR )ကို ကုမ္ပဏီ နှစ်စဉ် အသားတင်အမြတ်၏ (၂)% ခန့်ထားရှိထားသည်ကို တွေ့ရှိရပါသည်။

(ဈ) ယခုတင်ပြလာသော အဆိုပြုစီမံကိန်းပုံစံသည် သဘောထားပုံစံတစ်ခုအနေဖြင့် သာရှိပြီး အသေးစိတ်ပုံစံများ Master Plan အဆင့်အထိစနစ်တကျ တိုင်းတာ ရေးဆွဲပုံစံ ထုတ်ပြီးမှသာ အခြေခံအဆောက်အအုံဆိုင်ရာ ရေ ၊ လျှပ်စစ်မီး စသည် တို့၏ အခြေခံ လိုအပ်ချက်ကို သိရှိနိုင်မည်ဖြစ်ပါသည်။ ရေရရှိရေးနှင့်လျှပ်စစ်မီး ၏ လိုအပ်ချက်များကို လေ့လာ သိရှိပြီးဖြစ်ပါက အသုံးပြုမည့် စက်ရုံများ၏ အမျိုးအစားအလိုက် ဇုန်ခွဲခြားသတ်မှတ် အသုံးပြုသင့်ပါသည်။

(ည) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ဝန်ကြီးချုပ်၏ ပဏာမဖြစ်တန်စွမ်းလေ့လာမှု အစီရင်ခံစာအရ စက်မှုဇုန်များ အကောင်အထည်ဖော်ဆောင်ရွက်၍ အောင်မြင် လာပါက အလုပ်အကိုင်အခွင့်အလမ်းများ တိုးတက်များပြားလာခြင်း ၊ ဒေသခံ ပြည်သူလူထုအတွက် ဝင်ငွေတိုးတက်လာပြီး နိုင်ငံတော်ဖွံ့ဖြိုးတိုးတက်မှုကို များစွာ အထောက်အကူပြုနိုင်မည်ဖြစ်ပါသဖြင့် တွန်းအားပေး ဆောင်ရွက်သင့် ကြောင်း အကြံပြုတင်ပြအပ်ပါသည်။

၃။ အဆိုပြုစီမံကိန်းများ၏ Detailed Master Plan ရေးဆွဲသောအခါ၌ လူနေဇုန် အတွင်းလူဦးရေ သိပ်သည်းမှု (၁) ဧကလျှင် လူဦးရေ (၂၀၀)ထက်မကျော်လွန် စေရန် ရေးဆွဲ ရပါမည်။

၄။ မြေဧက (၂၀၀) အထက်ရှိသော ဖွံ့ဖြိုးရေးစီမံကိန်းလုပ်ငန်းများ ဖြစ်သောကြောင့် မြေစီမံခန့်ခွဲမှု (Land Management) နှင့် မြေပုံရာဇဝင် ထိန်းသိမ်းခြင်း (Land Record) တို့ကို သက်ဆိုင်ရာ အစိုးရဌာနအဖွဲ့အစည်းတစ်ခုခုမှ စီမံခန့်ခွဲခြင်းများ ဆောင်ရွက်ရန် လိုအပ် ပါမည်။

၅။ **လမ်းဖောက်လုပ်မှုနှင့်မြေအသုံးချမှုအကြံပြုချက်များ**

(က) **အဆိုပြု ကေတုမတီစက်မှု ဥယျာဉ်စီမံကိန်း (၂၃၅.၅၄)ဧက**

(၁) အဆိုပြုစီမံကိန်းဧရိယာ၏ မြောက်ဘက်ရှိ ပိတောက်ကုန်းလမ်း နှင့် တောင်ဘက်ရှိ ဇရပ်ကွင်းလမ်းတို့အား စီမံကိန်းဧရိယာအတွင်းမှ ဆက်စပ်လာမည့်လမ်းများနှင့် လိုက်လျော ညီထွေဖြစ်ရန် အဆင့်မြှင့်တင် ပေးသင့်ပါသည်။

(၂) အဆိုပြုစီမံကိန်းဧရိယာ၏ အတွင်းရှိလမ်းများနှင့် (Commercial Area အနီး) မှ ပိတောက်ကုန်းလမ်းနှင့်ဇရပ်ကွင်းလမ်းတို့ကိုဆက်စပ်ဖောက်လုပ်ပေးသင့်ပါသည်။

(၃) အဆိုပြုစီမံကိန်းဧရိယာ၏ အနောက်ဘက်တွင် သီးခြားရှိနေသည့် မြေ (၄၃.၆၁)ဧက အား စက်မှုဇုန်ဧရိယာအဖြစ် မသတ်မှတ်ဘဲ စိမ်းလန်းမြေ၊ စက်မှုဇုန်အား အထောက် အကူဖြစ်စေမည့် စိန်းလန်းမြေ၊ စိုက်ခင်းများ၊ လူနေအိမ်ရာများနှင့် Mix Use များ အဖြစ် ပြောင်းလဲအသုံးပြု သင့်ပါသည်။

(ခ) **အဆိုပြု ကေတုမတီစက်မှု ဥယျာဉ်စီမံကိန်း (၁၃၃၁)ဧက**

(၁) အဆိုပြုစီမံကိန်းဧရိယာ နှင့် ပတ်ဝန်းကျင်အား တိုက်ရိုက်ဆက်စပ်သည့် လမ်းများကို ဖောက်လုပ်သင့်ပါသည်။

(၂) အဆိုပြုလူနေဇုန်စီမံကိန်း ဧရိယာအတွင်းရှိလမ်းများကို ပြန်လည်ပြင်ဆင် ရေးဆွဲ သင့်ပါသည်။

(ဂ) **ဖော်ပြပါ အဆိုပြုကေတုမတီ စက်မှုဥယျာဉ်စီမံကိန်းများ၏ မြေအသုံးချမှုအား အောက်ဖော် ပြပါ သတ်မှတ်ချက်များနှင့်အညီ ရေးဆွဲဆောင်ရွက်ရပါမည် -**

| | | |
|---|---|---|
| (၁) | Building Coverage Ratio (BCR) | (၄၀%) မှ (၅၀%) |
| (၂) | Floor Area Ratio (FAR) | (၁.၅)မှ (၂.၅) |
| (၃) | လမ်းအသုံးပြုမှု | ၂၀ % (အနည်းဆုံး) |
| (၄) | စိမ်းလန်းမြေ | (၅%)မှ (၁၀%) |
| (၅) | Mix Used (စီးပွားရေးအသုံးပြုမှု) (Total Floor Area) | (၃၀%) မှ (၄၀% ) |
| (၆) | လူဦးရေသိပ်သည်းမှု | ၂၀၀ဦး/ဧက(အများဆုံး) |

(ဃ) ဖော်ပြပါ အဆိုပြုကေတုမတီ စက်မှုဥယျာဉ်စီမံကိန်းများ၏ မြေအသုံးချမှုအား အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ရေးဆွဲဆောင်ရွက်ရပါမည် -

အဆိုပြုစီမံကိန်းများအားလုံး Concept Plan အဆင့်မှ အခြေခံ အဆောက်အဦစီမံကိန်းပုံစံ Infrastructure Plan ၊ Master Plan နှင့် အကောင်အထည်ဖော်ရန် Detail Plan များ ဆက်လက် ရေးဆွဲ၍ သက်ဆိုင်ရာဌာနအဖွဲ့အစည်းများထံမှ အတည်ပြုချက်ရယူ၍ ဆောင်ရွက်ရန် လိုအပ်ပါသည်။

**နယ်မြေဒေသဖွံ့ဖြိုးရေးအကြံပြုတင်ပြချက်**

၆။ စက်မှုဇုန်များသည် အလုပ်အကိုင်၊ အခွင့်အလမ်းများကို ဖော်ထုတ်နိုင်ပြီး ဒေသစီးပွားဖွံ့ဖြိုးတိုးတက်ရေး အတွက်များစွာအထောက်အကူပြုနိုင်ပါသည်။ သို့သော် ရန်ကုန်မြို့တွင် လက်ရှိ ဖော်ထုတ်ထားသည့် စက်မှုမြေဇုန်ဧကပေါင်းမှာ (၁၀၀၀၀)ကျော်တွင် စက်မှုအကွက်ပေါင်း (၅၀၀၀)ခန့် ဖော်ထုတ်ပြီး ဖြစ်သော်လည်း စက်မှုဇုန်များ၏ လျှပ်စစ်မီး ၊ ရေရရှိမှုနှင့် ရေဆိုးသန့်စင်စနစ် စသည်တို့မှာ လိုအပ်ချက်များ ရှိနေဆဲဖြစ်သောကြောင့် အဆိုပါစက်မှုဇုန်ဖော်ထုတ်မည့် ဧရိယာ နှင့် ပတ်ဝန်းကျင်တွင် ဖြည့်ဆည်းပေးနိုင်ရန် လိုအပ်မည့်အခြေခံအဆောက်အအုံ အခြေအနေတို့ကို လေ့လာဆန်းစစ် တွက်ချက်ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။ အလားတူမြေအသုံးပြုမှု ပြောင်းလဲခြင်းဆိုင်ရာအခြေအနေများအား ဆန်းစစ်ရန်လည်း လိုအပ်ပါမည်။

၇။ ပဲခူးတိုင်းဒေသကြီးအတွင်း အမြန်လမ်းမကြီးဘေးတစ်လျှောက်မိုင်(၄၀) ၊ (၁၄၅)မိုင်ခန့်နှင့်(၁၅၀) မိုင်ခန့်တို့တွင်ပုဂ္ဂလိကမှ စက်မှုဇုန်ထူထောင်ခြင်းလုပ်ငန်းများနှင့် ပဲခူးတိုင်းဒေသကြီး၊ အင်းတကော် မြို့နယ်၊ ဟံသာဝတီ စက်မှုဥယျာဉ်စီမံကိန်းမြေ (၂၅၀၀)ဧက၊ အင်းတကော်မြို့နယ်၊ ဟံသာပတီဂေဟာပန်းကျင် အဆင့်မြင့်အိမ်ရာစီမံကိန်း မြေ(၂၄၅၅.၇၇)ဧက နှင့် ပဲခူးမြို့နယ်၊ ဟံသာဝတီအိမ်ရာစီမံကိန်း မြေ(၂၆၉.၄၅)ဧက တည်ဆောက်ရန် အစီအစဉ်များလည်း ရှိနေပါသည်။နယ်မြေဒေသဖွံ့ဖြိုးရေး (Special Planning)အရ ဆန်းစစ်ပါက မြေအကျယ်အဝန်းပမာဏ ကြီးမားသည့် စက်မှုဇုန်များကို ဒေသတစ်ခုအတွင်း တစ်ပြိုင်နက် တည်ဆောက်ခြင်းဖြင့် ပေါ်ပေါက်လာမည့် အကျိုးသက်ရောက်မှု (Impact)များကို သေချာစွာ ဘက်စုံလေ့လာသည့် ပဏာမအဆင့် ဆန်းစစ်မှုများ ပြုလုပ်ရန်အထူး လိုအပ်ပါမည်။

၈။ နောင်လာမည့်(၅)နှစ်မှ (၁၀)နှစ်ကာလအတွင်း ထူထောင်ဆောင်ရွက်ရန် လျာထားသည့် မြို့ပြဖွံ့ဖြိုးရေးလုပ်ငန်းများ နှင့် စက်မှုဇုန်ထူထောင်ရေးလုပ်ငန်းများသည် အစိုးရ၊ ပုဂ္ဂလိက၊

ရင်းနှီးမြှုပ်နှံသူများနှင့် အများပြည်သူတို့အတွက် ရေရှည် စဉ်ဆက်မပြတ် ဖွံ့ဖြိုးတိုးတက်မှု (Sustainable Development)နှင့် ပတ်ဝန်းကျင်ထိခိုက်မှု မရှိစေဘဲ စီးပွားရေးအကျိုးရလာဒ်ကောင်းများလည်း ရရှိစေရန်အတွက် ကျွမ်းကျင်သူအတိုင်အပင်ခံအဖွဲ့အစည်း(Consultant Farm) များဖြင့် Business Plan ကို ဘက်စုံရှုဒေါင့်စုံမှ ထည့်သွင်းစဉ်းစား၍ အချိန်ယူရေးဆွဲပြီး အဆင့်အလိုက် (Phase by Phase) အကောင်အထည်ဖော်ဆောင်ရွက်သွားရန် လိုအပ်ပါမည်။

၉။ နယ်မြေဒေသဖွံ့ဖြိုးတိုးတတ်ရေးဆိုင်ရာ ရေရှည်ဖွံ့ဖြိုးမှု အစီအမံများ ချမှတ်၍ ပဏာမဖြစ်တန်စွမ်းလေ့လာမှု အစီရင်ခံစာအရ ဆောင်ရွက်မည့် လူမှုစီးပွားပတ်ဝန်းကျင်ဆိုင်ရာ၊ မြို့ပြစီမံကိန်းဆိုင်ရာ စီမံကိန်းများကို စနစ်တကျနှင့် နည်းပညာလိုအပ်ချက်များကိုပါ ထည့်သွင်းတွက်ချက်သင့်ပါသည်။မြေအသုံးပြုမှုများတွင် တန်ဖိုးရှိ၍ အစားပြန်လည်မရနိုင်သော အရင်းအမြစ်များ ( Non-renewable resources) ဆုံးရှုံးခြင်းမှ ကာကွယ်တားဆီးရန်လည်း လိုအပ်ပါမည်။ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်း၊စည်းကမ်းများနှင့် ခိုင်မာသောအဖွဲ့အစည်း အုပ်ချုပ်မှုစနစ်ကိုထူထောင်၍ စနစ်တကျ စီမံခန့်ခွဲခြင်းဖြင့် ရေရှည် စဉ်ဆက်မပြတ်ဖွံ့ဖြိုးမှု (Sustainable Development) ကို ရရှိစေပါမည်။ အနာဂတ်တွင် ဆောင်ရွက်မည့် မြို့ပြဖွံ့ဖြိုးရေးအစီအစဉ်များကို Green City and Green Growth Conceptဖြင့် စီမံကိန်းများရေးဆွဲခြင်း ၊ ပွင့်လင်းမြင်သာစွာဖြင့် အကောင်အထည်ဖော်မှု အစီအစဉ်များ ဆောင်ရွက်ခြင်းတို့ဖြင့် နိုင်ငံတကာအဆင့်မီ ဆောင်ရွက်သွားသင့်ပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ပူးတွဲ

- အဆိုပြု တင်ပြလာသော စီမံကိန်းဆိုင်ရာ အချက်အလက်များ နှင့် မြေအသုံးပြုမှု အခြေအနေ။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ကျော်လင်း ၊ အမြဲတမ်းအတွင်းဝန်

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ် ၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။
- ညွှန်ကြားရေးမှူး၊မြို့ပြနှင့်ဒေသဖွံ့ဖြိုးရေးဌာနခွဲ၊မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

# အဆိုပြုတင်ပြလာသော စီမံကိန်းဆိုင်ရာအချက်အလက်များနှင့် မြေအသုံးပြုမှုအခြေ အနေ

| စဉ် | အကြောင်းအရာ | စီမံကိန်းအပိုင်း(၁) | စီမံကိန်းအပိုင်း(၂) |
|---|---|---|---|
| ၁ | တည်နေရာ | နေပူကုန်းကျေးရွာအုပ်စု၊တောင်ငူမြို့နယ်၊ရန်ကုန်-မန္တလေးအမြန်လမ်းမိုင်တိုင် (၁၅၂)အနီး | ပဲချက်ကုန်းကျေးရွာအုပ်စု၊ တောင်ငူမြို့နယ် |
| ၂ | အကျယ်အဝန်း | (၂၃၅.၅၄)ဧက | (၁၃၁၁)ဧက |
| ၃ | စီမံကိန်းအမျိုးအစား | စက်မှုဇုန် ဥယျာဉ်မြို့တော်စီမံကိန်း | စက်မှုဇုန် ဥယျာဉ်မြို့တော်စီမံကိန်း |
| ၄ | ရင်းနှီးမြှုပ်နှံမှု | (၁၅၀၀၀၀)ကျပ်သန်း (၁၅၀ ဘီလီယံ) | (၁၅၀၀၀၀)ကျပ်သန်း (၁၅၀ ဘီလီယံ) |
| ၅ | စီမံကိန်းကာလ | (၃)နှစ် | (၃)နှစ် |
| ၆ | စက်မှုလုပ်ငန်း အမျိုးအစား | စိုက်ပျိုးရေးအခြေခံစက်မှုလုပ်ငန်း<br>သစ်တောထွက်ပစ္စည်းအခြေခံစက်မှုလုပ်ငန်း<br>သတ္တုတွင်းထွက်ပစ္စည်းအခြေခံစက်မှုလုပ်ငန်း<br>သစ်အခြေခံစက်မှုလုပ်ငန်း<br>စက်နှင့်စက်အပိုပစ္စည်းထုတ်လုပ်သည့်စက်မှုလုပ်ငန်း | စိုက်ပျိုးရေးအခြေခံစက်မှုလုပ်ငန်း<br>သစ်တောထွက်ပစ္စည်းအခြေခံစက်မှုလုပ်ငန်း<br>သတ္တုတွင်းထွက်ပစ္စည်းအခြေခံစက်မှုလုပ်ငန်း<br>သစ်အခြေခံစက်မှုလုပ်ငန်း<br>စက်နှင့်စက်အပိုပစ္စည်းထုတ်လုပ်သည့်စက်မှုလုပ်ငန်း |
| ၇ | လျှပ်စစ်မီးရရှိမှုအခြေအနေ | ကိုယ်ပိုင်လျှပ်စစ် စက်ရုံတည်ဆောက်၍ အသုံးပြုမည်။ (၁၇၅၂၀၀)ကီလိုဝပ် | ကိုယ်ပိုင်လျှပ်စစ်စက်ရုံတည်ဆောက်၍အသုံးပြုမည်။ (၉၇၅၁၀၀)ကီလိုဝပ် |
| ၈ | ရေရရှိမှုအခြေအနေ | မြေအောက်ရေ၊ ရေကန်နှင့် ဆည်အသေးစားများတည်ဆောက်၍ရေသိုလှောင်ခြင်း | မြေအောက်ရေ၊ ရေကန်နှင့် ဆည်အသေးစားများတည်ဆောက်၍ရေသိုလှောင်ခြင်း |
| ၉ | CSR | 2% | 2% |
| ၁၀ | EMP | ရှိ | ရှိ |
| ၁၁ | EIA | ရေးဆွဲဆဲ | ရေးဆွဲဆဲ |

| No | Land Use | Project (1) | | | Project (2) | | |
|---|---|---|---|---|---|---|---|
| | | Area (acre) | Plots | (%) / 235.54 | Area (acre) | Plots | (%) / 1331 |
| 1 | Residential | 11.77 | 4 | 4.997 | | | |
| 2 | First Kind of Residence Land | | | | 30.96 | 1 | 2.362 |
| 3 | Second Kind of Residence Land | | | | 39.96 | 2 | 3.048 |
| 4 | Commercial | 14.13 | 5 | 5.999 | 36.69 | 2 | 2.799 |
| 5 | Commercial Services | | | | 20.07 | 1 | 1.531 |
| 6 | Administrative | 4.35 | 2 | 1.847 | 19.11 | 1 | 1.458 |
| 7 | Clinic | 2.32 | 1 | 0.985 | 10.5 | 1 | 0.801 |
| 8 | Fire Station | 3.19 | 1 | 1.354 | 9.29 | 1 | 0.709 |
| 9 | School | 1.93 | 1 | 0.819 | 14.05 | 1 | 1.072 |
| 10 | Industrial Area | 99.73 | 20 | 42.341 | 567.13 | 82 | 43.259 |
| 11 | Logistic Land | 10.98 | 3 | 4.662 | 65.55 | 7 | 5 |
| 12 | Water Treatment Plant | 5.02 | 1 | 2.131 | 12.32 | 1 | 0.940 |
| 13 | Sub Station(Electric) | 6.76 | 2 | 2.870 | | | |
| 14 | Public Administration Land | 75.36 | | | 12.6 | 1 | 0.961 |
| 15 | Ware House | | | | 472.77 | | |
| 16 | Green Area | | | | | | |
| 17 | Green Farm | | | | | | |
| 18 | Public Green Land | | | | | | |
| 19 | Transportation Facilities | | | | | | |
| 20 | Retention Water Pond Area | | | | | | |
| | TOTAL | 235.54 | | | 1311 | | |



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၂/၉၀(က)(၁)( ၄၀၉ /၂၀၁၆)
ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၇-၂-၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၅၂၆/၂၀၁၆(၂၃၂)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် **Kaytumadi Development Public Co.,Ltd** မှ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့နယ် ပဲချက်ကုန်းကျေးရွာအုပ်စု အမှတ်(၆)၊ ကွင်းအမှတ်-၅၈၁၊တောင်ကြီးတက်ကွင်းရှိမြေဧရိယာ(၁၃၁၁)ဧကတွင် စက်မှုဥယျာဉ်စီမံကိန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်ခင်လှလှမှ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြုပေးပါရန် ညှိနှိုင်းလာမှုရှိပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်-

(က)အဆိုပြုဧရိယာများသည် ဆည်များ၏ အောက်ပိုင်း လက်ရှိမြို့ရွာများနှင့် တဆက်တစ်စပ်တည်း ဖြစ်ခြင်းကြောင့် ရေဝေရေလဲဧရိယာများမပါရှိပါ။

( ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်သင့်ပါသည်။

(ဂ) မြေနှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရအဖွဲ့၊ မြေအသုံးချမှုစီမံခန့်ခွဲရေးဗဟိုကော်မတီတို့၏ စီစစ်ခွင့်ပြုချက်အားဖြင့် ဆောင်ရွက်ထားရှိခြင်းဖြစ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

- စီမံကိန်းဦးစီးဌာန
- လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
- Kaytumadi Development Public Co.,Ltd

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**ပြည်ထောင်စုအစိုးရအဖွဲ့ရုံး**

စာအမှတ်၊ ၃၈၂ /၁၁၂-စီမံကိန်း ၃-၆/အဖရ(၂၀၁၆)
ရက် စွဲ ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၂ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ဝန်ကြီးချုပ်
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

အကြောင်းအရာ။ **ကေတုမတီဖွံ့ဖြိုးတိုးတက်ရေး အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်မည့်ကိစ္စ**

ရည် ညွှန်း ချက် ။ ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၂၂-၁-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၈/ ၁-၁၂/ဦး ၈ (၁၁၄)

ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာအုပ်စု (အုပ်စုအမှတ်၂)၊ ကွင်းအမှတ် ၅၉၉/ဂ၊ နေပူကုန်းတောအရှေ့ကွင်း၊ ၅၉၂/က ဝမ်းဘဲစာကွင်း၊ ၆၀၀-ခ ကျောက်ပုဏ္ဏားအရှေ့ကွင်း၊ ၅၈၆-ကံဇယာကွင်းရှိ မြေဧရိယာ(၂၃၅.၅၄)ဧကနှင့် ပဲချက်ကုန်းကျေးရွာအုပ်စု အမှတ် (၆)၊ ကွင်းအမှတ် ၅၈၁- တောင်ကြီးတက်ကွင်းရှိ မြေဧရိယာ(၁၃၁၁)ဧကတို့တွင် စက်မှုဥယျာဉ်စီမံကိန်းလုပ်ငန်းအား အကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ တင်ပြလာကြောင်း၊ အဆိုပါစီမံကိန်းလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြထားပြီးဖြစ်ကြောင်းနှင့် ပဲခူးတိုင်းဒေသကြီးလွှတ်တော်၌ သဘောတူမှတ်တမ်းတင်ပြီးဖြစ်ကြောင်း ရည်ညွှန်းစာဖြင့်တင်ပြမှုအပေါ် **"မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ကသာ စိစစ်ဆောင်ရွက်စေရန်"** လမ်းညွှန်မှုအား သိရှိဆောင်ရွက်နိုင်ပါရန် အကြောင်းကြားပါသည်။

ဇော်သန်းသင်း
ညွှန်ကြားရေးမှူးချုပ်

မိတ္တူ၊

နိုင်ငံတော်သမ္မတရုံး
သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
စီးပွားရေးရာကော်မတီ

လျှို့ဝှက်

P1/10-Bago

(၄၄)

ပဲခူးတိုင်းဒေသကြီးလွှတ်တော်
ပဲခူးမြို့
စာအမှတ်၊ ၁၀ / ၄ - ၁ / ဦး ၅
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၇ ရက်



သို့
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့

အကြောင်းအရာ။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့်လုပ်ငန်းစီမံကိန်းများကိစ္စ

ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့၌ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိသည့် အောက်ဖော်ပြပါလုပ်ငန်းစီမံကိန်းများအား ပဲခူးတိုင်းဒေသကြီးလွှတ်တော်၌ (၂၉-၁၂-၂၀၁၅)ရက်နေ့တွင် ကြားနာဆောင်ရွက်ခဲ့ပြီး ယင်းကြားနာမှုအား (၂၅-၁-၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ပဲခူးတိုင်းဒေသကြီးလွှတ်တော် (၁၄)ကြိမ်မြောက်ပုံမှန်အစည်းအဝေး (ဒုတိယနေ့)တွင် သဘောတူမှတ်တမ်းတင်ပြီးဖြစ်ပါကြောင်း အကြောင်းကြားအပ်ပါသည်-

(က) တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာရှိ မြေဧရိယာ(၂၃၂၈. ၆၈)ဧက၊ မြောက်ရေကြည်ကျေးရွာအုပ်စုရှိ မြေဧရိယာ(၄၃. ၃၃)ဧက၊ ဝက်ခေါက်စိန်ကျေးရွာအုပ်စုရှိ မြေဧရိယာ (၄၉၃၇. ၁၆)ဧက၊ ကညင်မြောင်ကျေးရွာအုပ်စုရှိ မြေဧရိယာ (၃၃၀၆. ၂)ဧက၊ ပဲချက်ကုန်းကျေးရွာအုပ်စုရှိ မြေဧရိယာ (၁၄၇၃. ၀၂)ဧက၊ ဘိုကတော်ကျေးရွာအုပ်စုရှိ မြေဧရိယာ(၁၇၇. ၅၈)ဧကတွင် ဆောင်ရွက်မည့် စက်မှုဥယျာဉ်မြို့တော်စီမံကိန်း၊

(ခ) တောင်ငူမြို့နယ်၊ ဆင်ဆိပ်ကျေးရွာရှိ မြေဧရိယာ(၁၀. ၀၀)ဧက၊ ဖီးဖိုင်းကျေးရွာ အုပ်စုရှိ မြေဧရိယာ (၁၃. ၁၁)ဧက၊ ကင်းဆိပ်ကျေးရွာအုပ်စုရှိ မြေဧရိယာ (၃၆. ၇၀)ဧက၊ ကန်ရိုးကျေးရွာအုပ်စုရှိ မြေဧရိယာ(၉၇. ၂)ဧက၊ လဲဘူးကျေးရွာ အုပ်စုရှိ မြေဧရိယာ (၁၁၃. ၈၅)ဧကတွင် ဆောင်ရွက်မည့် အဆင့်မြင့်အိမ်ရာ စီမံကိန်း၊

ဥက္ကဋ္ဌ(ကိုယ်စား)
ဝင်းမြင့်စိုး၊ ဒုတိယဥက္ကဋ္ဌ

မိတ္တူကို-
ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့်သက်ဆိုင်သောကုမ္ပဏီလီမိတက်
လက်ခံစာတွဲ

SMP (182)



ပဲခူး တိုင်း ဒေ သ ကြီး လွှတ် တော်
ပဲ ခူး မြို့
စာအမှတ်၊ ၁၀ / ၄ - ၁ / ဦး ၅
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်

ဝန်ကြီးချုပ်

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

ပဲခူးမြို့

အကြောင်းအရာ။ **ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့တွင် ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့်လုပ်ငန်းစီမံကိန်းများကိစ္စ**

၁။ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူမြို့၌ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်မှ အကောင်အထည်ဖော်ဆောင်ရွက်လျက်ရှိသည့် အောက်ဖော်ပြပါလုပ်ငန်းစီမံကိန်းများအား ပဲခူးတိုင်းဒေသကြီးလွှတ်တော်၌ (၂၉-၁၂-၂၀၁၅)ရက်နေ့တွင် ကြားနာဆောင်ရွက်ခဲ့ပြီး ယင်းကြားနာမှုအား မှတ်တမ်းတင်ပြီးဖြစ်ပါကြောင်း အကြောင်းကြားအပ်ပါသည်-

(က) တောင်ငူမြို့နယ်၊ နေပူကုန်းကျေးရွာရှိ မြေဧရိယာ(၂၃၂၈. ၆၈)ဧက၊ မြောက်ရေကြည်ကျေးရွာအုပ်စုရှိ မြေဧရိယာ(၄၃. ၃၃)ဧက၊ ဝက်ခေါက်စိန်ကျေးရွာအုပ်စုရှိ မြေဧရိယာ (၄၉၃၇. ၁၆)ဧက၊ ကညင်မြောင်ကျေးရွာအုပ်စုရှိ မြေဧရိယာ (၃၃၀၆. ၂)ဧက၊ ပဲချက်ကုန်းကျေးရွာအုပ်စုရှိ မြေဧရိယာ (၁၄၇၃. ၀၂)ဧက၊ ဘိုကတော်ကျေးရွာအုပ်စုရှိ မြေဧရိယာ(၁၇၇. ၅၈)ဧကတွင် ဆောင်ရွက်မည့် စက်မှုဥယျာဉ်မြို့တော်စီမံကိန်း၊

(ခ) တောင်ငူမြို့နယ်၊ ဆင်ဆိပ်ကျေးရွာရှိ မြေဧရိယာ(၁၀. ၀၁)ဧက၊ ဇီးဒိုင်းကျေးရွာ အုပ်စုရှိ မြေဧရိယာ (၁၃. ၁၁)ဧက၊ ကင်းဆိပ်ကျေးရွာအုပ်စုရှိ မြေဧရိယာ (၃၆. ၇၁)ဧက၊ ကန်ရိုးကျေးရွာအုပ်စုရှိ မြေဧရိယာ(၉၇. ၂)ဧက၊ လဲဘူးကျေးရွာ အုပ်စုရှိ မြေဧရိယာ (၁၁၃. ၈၅)ဧကတွင် ဆောင်ရွက်မည့် အဆင့်မြင့်အိမ်ရာ စီမံကိန်း၊

၂။ အဆိုပါ ကြားနာမှုနှင့်ပတ်သက်၍ မင်းလှမြို့နယ်မဲဆန္ဒနယ်အမှတ်(၂)မှ တိုင်းဒေသကြီးလွှတ်တော်ကိုယ်စားလှယ် ဦးရဲထွဋ်ခေါင် အဖွဲ့ခေါင်းဆောင်အဖြစ် ပါဝင်သည့် ကြားနာရေးအဖွဲ့က အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြုခဲ့ပါသည်-

(က) အစုရှယ်ယာများကို စည်းမျဉ်းစည်းကမ်းများနှင့်အညီ အများပြည်သူသို့ အသိပေး ရောင်းချသင့်ပါသည်၊

(ခ) ဆောက်လုပ်မည့်အိမ်ရာများသည် တန်ဖိုးသင့်ရမည့်အပြင် အများဝယ်ယူနေကိုင်နိုင်သော ဈေးနှုန်းများဖြစ်သင့်ပါသည်၊

(ဂ) လုပ်ငန်းခွင်တွင် ဒေသခံပြည်သူများကို အဓိကထားခေါ်ယူလုပ်ကိုင်စေသင့်ပါသည်၊

(ဃ) စက်ရုံများတည်ဆောက်ပြီးပါကလည်း တိုင်းအတွင်းနေထိုင်သူများကို ဦးစားပေးခန့်ထားသင့်ပါသည်၊

SMP (127)

၃။ ထို့ပါ၍ တောင်ငူမြို့၊ ကေတုမတီဖွံ့ဖြိုးတိုးတက်ရေးအများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်လျက်ရှိသော ကေတုမတီစက်မှုဥယျာဉ်စီမံကိန်းကိစ္စကြားနာရေး အဖွဲ့၏ သဘောထားမှတ်ချက်အားသိရှိနိုင်ပါရန်နှင့် လိုအပ်သလိုဆက်လက်ဆောင်ရွက်နိုင်ပါရန် ညွှန်ကြားအကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူး(ကိုယ်စား)
ဝင်းမြင့်စိုး၊ ဒုတိယညွှန်ကြားရေးမှူး

**မိတ္တူကို-**

လုံခြုံလည်စာတွဲ
လက်ခံစာတွဲ

SMP (128)